

## မာတိကာ

بسم الله الرحمن الرحيم

**စာအုပ်အကြောင်း တစေ့တစောင်း……**

الحمد لله وحده ، والصلاة والسلام على من لانبي بعده ، وعلى آله وأصحابه الذين اتبعوا سننه وهديه .وبعد

အရဗီစာပေနှင့်ပတ်သက်၍ အဓိကအချက်နှစ်ချက်ကို ပဏာမတင်ပြလိုသည်။

(၁) အရဗီစာပေသည် စတင်ပေါ်ပေါက်လာချိန်မှ ယနေ့တိုင် ခေတ်များ ပြောင်းလဲသွားသော်လည်း မဟောင်းသော ဘာသာစကားဖြစ်သည်။ သို့သာမက အမြဲသစ်လွင် လန်းဆန်းလျှက်ရှိနေသည်။ ထိုသစ်လွင်လျှက်ရှိသော ပုံရိပ်စစ်များသည် ကျမ်းတော်မြတ်ကုရ်အာန်နှင့် ဟဒီးဆ်တော်များတွင် ကွန့်မြူးလျှက်ရှိနေသည်။

(၂) ကျမ်းမြတ်ကုရ်အာန်၊ဟဒီးဆ်တော်များနှင့် ဖိကဟ်ပညာရပ်တို့သည် ကျွန်ုပ်တို့သာသနာတော်၏ အခြေခံမဏ္ဍိုင်များဖြစ်သည်။ ထိုအခြေခံ မဏ္ဍိုင်များ၏မူရင်းစာပေသည် အရဗီစာပေဖြစ်သည်။ ၎င်းမဏ္ဍိုင်များသည် လွန်ခဲ့သည့်နှစ်ပေါင်း(၁၄၀၀)မှယနေ့တိုင် အရဗီစာပေဖြင့်သာ ရပ်တည်နေပြီး ကမ္ဘာတည်သရွေ့ယင်းအရဗီစာပေဖြင့်သာ တည်ရှိနေဦးမည်။

ထိုမဏ္ဍိုင်များအားနားလည်သဘောပေါက်နိုင်ရန် အရဗီစာပေကိုလွယ်ကူစွာ ပြောဆို၊ ရေးသား၊ဖတ်ရှုတ်၊နားလည်နိုင်ခြင်း၊စာပေအသုံးအနှုံးများနှင့် ဝေါဟာရတို့၏စွမ်းအားများကို ဂဃနဏသိရှိခြင်းသည်အရေးပါလှသော ကဏ္ဍတစ်ခုဖြစ်နေသည်။

ထိုအရဗီစာပေအသုံးအနှုံးများနှင့် ဝေါဟာရများကို ဂဃနဏမသိရှိဘဲ ယင်းအစ္စလာမ့်မဏ္ဍိုင်များရှိ အမိန့်တော်များနှင့်အစ္စလာမ့်နည်းစနစ်မှန်ကို ခရေစေ့တွင်းကျ နားမလည်နိုင်သလို အစ္စလာမ့်အနှစ်သာရမှန်များကိုလည်း လုံးဝဖော်ထုတ်နိုင်မည်မဟုတ်ပါ။

အချုပ်ဆိုရသော် အလုံးစုံသော မူရင်းသာသနာ့အမွေအနှစ်များကို အရဗီစာပေဖြင့်သာ တိကျ ခိုင်လုံစွာလေ့လာသိရှိနိုင်မည်။

"သဒ္ဒါမတတ် စာမတတ်" ဆိုသည့်အတိုင်း အရဗီစာပေကိုကျွမ်းကျင်ပိုင်နိုင်စွာ ရေး၊ဖတ်၊ ပြောဆို၊နားလည်နိုင်ရန် علم النحو (သဒ္ဒါပညာရပ်)သည် အခရာကျလှသည်။အရဗီတွင်လည်း "الصرف أم العلوم والنحو أبوها" (သဒ္ဒါပညာရပ်)သည် ပညာရပ်အပေါင်း၏ ဖခင်ဖြစ်ကြောင်း

လာရှိထားသည်။

"သဒ္ဒါပညာရပ်အားစတင်သင်ယူရာတွင် မည်သည့်ကြားခံဘာသာစကားမျှမပါဘဲ မိခင်ဘာသာစကားဖြင့်သာတိုက်ရိုက်သင်ယူခြင်းသည် ပိုမိုထိရောက်ပြီး အကျိုးရှိသည်" ဟု သမ္မာရင့်ဝါရင့်ဆရာသမားများမိန့်ကြသည်။ကြားခံဘာသာစကားဖြင့်အခြေခံသဒ္ဒါများကို သင်ယူခြင်းသည် ကလေးငယ်များကို ဝိရောဓိ (ဇဝေဇဝါ) ဖြစ်စေသည်။

ဤအခြေခံသဘောတရားများကို ရှေ့ရှုကာ ကျွန်ုပ်တို့သည် **"လွယ်ကူလေ့လာအရေဗီသဒ္ဒါ"** ဆိုသည့်အမည်ဖြင့် အမိမြန်မာနိုင်ငံမှ အရဗီစာပေစတင်သင်ယူမည့်ကျောင်းသား/ကျောင်းသူများ အတွက် မြန်မာဘာသာဖြင့် အရဗီသဒ္ဒါကို ရေးသားပြုစုလိုက်ခြင်းဖြစ်သည်။

ထိုသို့ပြုစုရာတွင် ကျွန်ုပ်တို့သည် မူရင်းအရဗီသဒ္ဒါကျမ်းများမှအချက်အလက်များကိုသာ တင်ပြရန်ကြိုးစားခဲ့သည်။ စာအုပ်အစတွင် အရဗီသဒ္ဒါသင်ကြားနည်းလမ်းညွှန်နှင့် သင်ခန်းစာ တစ်ခုတိုင်း၏ အစတွင် ဆရာလမ်းညွှန်များ၊ သင်ခန်းစာ၏ အဆုံးတွင် သင်ခန်းစာ၏ အနှစ်ချုပ်ကို ဖော်ကျူးပေးသော ဇယားများနှင့် လေ့ကျင့်ခန်းများကို ဖော်ပြထားပါသည်။

ထို့အတူ စာစီရာတွင်လည်း ပုဒ်ဖြတ်၊ပုဒ်ရပ်များမှစ၍ Space တစ်ခုတိုင်းစီကိုပင် အဓိပ္ပါယ်ရှိရှိခြားရန်ကြိုးစားခဲ့သည်။ ကလေးများလွယ်ကူစွာနားလည်နိုင်ရန် ဥပမာများတွင် မျှားငယ်များဖြင့် ရည်ညွှန်းပြသခဲ့သည်။ စာအုပ်ကိုကြည့်ရှုံမှုဖြင့် စိတ်ရှုပ်ထွေးမှုမဖြစ်စေဘဲ ရှင်းလင်းစွာ ဖတ်ချင်သဖွယ်ဖြစ်စေရန် ကြိုးစားခဲ့သည်။ စာမျက်နှာတိုင်းတွင် အထူးမှတ်သားထားရမည့်အချက်များကို အနီရောင်ဖြင့် ချယ်သထားပါသည်။

ဤသို့ကြိုးစားမှုများအားလုံးတို့သည် အရှင်မြတ်၏ သောင်ဖ်ဖီးက် ( အကျိုးအကြောင်း ညီညွတ်စေမှုကြောင့်ဖြစ်ပြီး)၊ ဆရာသမားများ၏ ကြီးကြပ်လမ်းညွှန်မှုတို့ကြောင့်သာ ဖြစ်ကြောင်း ကိုလည်း ရိုးသားစွာ ဝန်ခံလိုပါသည်။

မည်မျှပင်ကြိုးစားခဲ့သည်ဖြစ်စေ လူသားများဖြစ်သည့်အားလျော်စွာ မေ့မှားမှုကင်းမည် မဟုတ်ကြောင်းကိုလည်း ယုံကြည်ပါသည်။ ထို့ကြောင့် ဤစာအုပ်ငယ်ကိုလေ့လာသင်ယူသူတိုင်း သည် စာအုပ်ပါ အမှားများ၊ စာအုပ်နှင့်သက်ဆိုင်သော အကြံပြုချက်များကို စေတနာမွန်ဖြင့် အောက်ပါ အီးမေးလ်၊ဖုန်းနံပါတ်များတွင် လွတ်လပ်စွာအကြောင်းကြားနိုင်ပါသည်။

kyawnyinyithwin@gmail.com (ph:09-402626111,09-975311577)

zinaunglat@gmail.com (ph:09-975303723,09-258848556)

နိဂုံးချုပ်အနေဖြင့် ဤစာအုပ်ဖြစ်မြောက်နိုင်ရန် စွမ်းအားများချီးမြှင့်တော်မူခဲ့သော အရှင်မြတ်ကို ဦးစွာ ကိုယ်၊နှုတ်၊နှလုံး (၃) ပါးလုံးဖြင့် ကျေးဇူးတင်ပါသည်။ ထို့အတူ ဤစာအုပ်ဖြစ်မြောက်သည်အထိ ကြီးကြပ်ပေးခဲ့သော ဆရာသခင်ကြီးများနှင့် အဖက်ဖက်မှ ကာယစွမ်း၊ဉာဏစွမ်းများဖြင့် ကူညီပံ့ပိုးခဲ့သော မိတ်ဆွေများကိုလည်း အထူးကျေးဇူးတင်ရှိပါသည်။

အရှင်မြတ် ဤစာအုပ်ကို ပြုစုသူများ၊ကြီးကြပ်ပေးသူများ၊ သင်ပေးသင်ယူပြုသူများအားလုံးကိုလည်း ကောင်းသော အစားများချီးမြှင့်တော်မူပြီး ဤစာအုပ်ငယ်ဖြင့် ကျွန်ုပ်တို့နှင့် မွတ်စ်လင်မ်ထုတစ်ရပ်လုံးကို အာခိရသ်တွင် အကျိုးဖြစ်ထွန်းစေတော်မူပါ။

## မေတ္တာရပ်ခံချက်

စာသင်ခန်းသို့ မသွားမီ နဖ်လ် နမားဇ် (၂) ရကအသ်ဖတ်၍ အလ္လာဟ့်ထံ "အိုအလ္လာဟ် ဤစာအုပ်၏ သင်ပေးသင်ယူမှုအား ကျွန်တော်မျိုးတို့အတွက် ဟေဒါယသ်၏ အကြောင်းခံဖြစ်စေတော်မူပါ။" ဟု တောင်းဆို၍ စာမသင်မီအလျင်ဤဒိုအာကို ဖတ်ပါ။ اَللّٰهُمَّ مَتِّعْنَا بِه وَمَتِّعْهُ بِنَا

(၁) ဘာသာရပ်နှင့် မိတ်ဆက်ပေးပါ။ ထိုသို့မိတ်ဆက်ရာတွင် مبادئ العلم العشرة ဖြစ်သော

الحد ، الموضوع، الثمرة ،فضله ، نسبة ، الواضع،الاسم، الاستمداد ، حكم الشارع، مسائل တို့ကိုလည်း စာအုပ်တွင် ပါရှိသည့်အတိုင်း ဂရုတစိုက်သင်ကြားပေးပါ။

(၂) အရဗီ သရဆိုင်ရာ အခြေခံ ဝေါဟာရများနှင့် النحو ပညာရပ်ဆိုင်ရာ အခြေခံဝေါဟာရများကိုအရဗီလို ဥပမာများနှင့်တကွကြေညက်အောင်သင်ကြားပေးပါ။

(၃) သင်ခန်းစာတစ်ပုဒ်တိုင်း၏ သက်ဆိုင်ရာ ဖွင့်ဆိုချက်များကို ဥပမာများနှင့်တကွ နှုတ်တိုက်ရှင်းပြ ပေးပါ။

(၄) ဥပဒေများကို ရှင်းပြသည့်အခါ White board ကိုလည်း အသုံးပြုပါ။

(၅) ဤစာအုပ်သည် အရဗီသဒ္ဒါတွင်အခြေခံကျသောစာအုပ်ဖြစ်သည့်အတွက် စ၊လယ်၊ဆုံး အလွတ်ကျက်မှတ်ခိုင်းပါ။ လာမည့်နှစ်များတွင်လက်တွေ့အသုံးပြုရမည့် ဥပဒေများကိုလည်း အထူးတလည် ကျက်မှတ်ခိုင်းပါ။

ဥပမာ - **مرفوعات، منصوبات ، مجرورات، أصناف الإعراب**

(၆) သင်ခန်းစာတစ်ပုဒ် ကြေညက်မှုမရှိသေးပဲ ရှေ့သင်ခန်းစာကို လုံးဝအစမပြုပါနှင့်။

(၇) သင်ခန်းစာများကို နေ့စဉ်မပျက်မကွက် စစ်ဆေးပါ။

(၈) စာအုပ်ပါ လေ့ကျင့်ခန်းများကို စနစ်တကျပြုလုပ်စေပြီး နေ့စဉ်စစ်ဆေးပေးပါ။

**မှတ်ချက်(၁)**။ ။ ဆရာသည် ကျောင်းသားများအား စာသစ်ကြိုတင်လေ့လာခြင်းနှင့် စာဟောင်း ကျော့ခြင်းတို့ကို နေ့စဉ်အထူးကြပ်မတ်ပေးပါ။ စာဟောင်းများကို ပြန်လည်မေးမြန်းရာတွင် ကျောင်းသားများ၏ တော်၊လတ်၊ညံ့ ဉာဏ်ရည်အဆင့်နှင့်အညီ စစ်ဆေးပေးပါ။

ညံ့သူကိုများများ မေးပါ။

**မှတ်ချက်(၂)**။ ။ လ ၏ နောက်ဆုံးအပတ် သင်ခန်းစာ သင်ကြားရမည့် နောက်ဆုံးရက်၌ တစ်လလုံးတွင် သင်ကြားခဲ့သော သင်ခန်းစာများကို စစ်ဆေးရန် လပတ်စာမေးပွဲ စနစ်ကို ထားပေးပါ။

**မှတ်ချက်(၃)**။ ။ ဆရာသည် သင်ရိုးပါစာအုပ်အား အထောက်အကူဖြစ်စေမည့် အခြား စာအုပ်များကိုလည်း လေ့လာနေပါ။

**မှတ်ချက်(၄)**။ ။ သင်ရိုးပါစာအုပ်ပြီးမြောက်သောအခါတွင်လည်း ကျောင်းသားများကို နောက်စာများ ပြန်ကျော့ပေးရန်အတွက် စာမေးပွဲအထိ အတန်းတွင်ရှိနေရမည်။



**ဆရာလမ်းညွှန်**

(၁) ဆရာသည် ဗျည်းအက္ခရာတစ်လုံးတိုင်းကို အမည်နာမများနှင့်တကွ စနစ်တကျ အရဗီအသံနေအသံထားဖြင့် သင်ကြားပေးရမည်။

(၂) လေ့ကျင့်ခန်းများကိုလည်း ရေးဖြေ/နှုတ်ဖြေ နှစ်မျိုးလုံးဖြင့် ပြုလုပ်စေရမည်။

(၃) ဤကဏ္ဍသည် အလွန်အရေးပါသောကြောင့် ကျောင်းသားတိုင်း စနစ်တကျ မရရှိသေးဘဲ ရှေ့သို့ မတက်ပါနှင့်။

## الدرس الأول – သင်ခန်းစာ (၁)

**اَلْمُصْطَلَحَاتُ الأَسَاسِيَّةُ لِلرُّمُوزِ الْعَرَبِيَّةِ** အရဗီသရုဆိုင်ရာအခြေခံဝေါဟာရများ အကြောင်း

يثبـ ဤအစက်ပြောက်ငယ်တစ်ခုတိုင်းကို نُقْطَةٌ ဟုခေါ်သည်။

نُقْطَةٌ ပါသောအက္ခရာကို مُعْجَمَةٌ ဟုခေါ်သည်။

ဥပမာ-ذ ဤသည်ကို ذَالْ مُعْجَمَةٌ ဟုခေါ်သည်။

نُقْطَةٌ မပါသောအက္ခရာကို مُهْمَلَةٌ ဟုခေါ်သည်။

ဥပမာ - د ဤသည်ကို دَالْ مُهْمَلَةٌ ဟုခေါ်သည်။

نُقْطَةٌ တစ်ခုတည်းပါသောအက္ခရာကို مُوَحَّدَةٌဟုခေါ်သည်။

ဥပမာ-ب ဤသည်ကို بَاءٌ موحَّدَةٌ ဟုခေါ် သည်။

نُقْطَةٌ နှစ်ခုပါသောအက္ခရာကို مُثَنَّاةٌ ဟုခေါ်သည်။

ဥပမာ - ت ဤသည်ကို تَاءٌ مُثَنَّاةٌ ဟု ခေါ်သည်။

نُقْطَةٌ သုံးခုပါသော အက္ခရာကို مُثَلَّثَةٌ ဟုခေါ်သည်။

ဥပမာ - ث ဤသည်ကို ثَاءٌ مُثَلَّثَةٌ ဟုခေါ်သည်။

نُقْطَةٌ အပေါ်တွင်ရှိပါက ၎င်းကို فَوْقِيَّةٌ ဟုခေါ်သည်။

ဥပမာ - ت ဤသည်ကို تَاءٌ مُعْجَمَةٌ مُثَنَّاةٌ فَوْقِيَّةٌ ဟုခေါ် သည်။

نُقْطَةٌ အောက်တွင်ရှိပါက ၎င်းကို تَحْتِيَّةٌ ဟုခေါ်သည်။

ဥပမာ - ي ဤသည်ကို يَاءٌ مُعْجَمَةٌ مُثَنَّاةٌ تَحْتِيَّةٌ ဟုခေါ်သည်။

အရဗီဗျည်းအက္ခရာများ၏ရုပ်သဏ္ဍာန်များ صور الحروف العر بية الهجائية

အရဗီဗျည်းအက္ခရာများ၏အမည်နာမများ أسماء الحروف العربية الهجائية

အက္ခရာရုပ်သဏ္ဍာန်များနှင့်အမြဲတွဲလျှက်ရှိသောအမှတ်သင်္ကေတများ رموزهاالدائمة

| | صور | أسماء | رموزها |
|---|---|---|---|
| (١) | ا | الألف | المهملة |
| (٢) | ء | الهمزة | المهملة |
| (٣) | ب | الباء | المعجمة الموحدة التحتية |
| (٤) | ت | التاء | المعجمة المثناة الفوقية |
| (٥) | ث | الثاء | المعجمة المثلثة الفوقية |
| (٦) | ج | الجيم | المعجمة الموحدة |
| (٧) | ح | الحاء | المهملة |
| (٨) | خ | الخاء | المعجمة الموحدة الفوقية |
| (٩) | د | الدال | المهملة |
| (١٠) | ذ | الذال | المعجمة الموحدة الفوقية |
| (١١) | ر | الراء | المهملة |
| (١٢) | ز | الزاي | المعجمة الموحدة الفوقية |
| (١٣) | س | السين | المهملة |
| (١٤) | ش | الشين | المعجمة المثلثة الفوقية |
| (١٥) | ص | الصاد | المهملة |
| (١٦) | ض | الضاد | المعجمة الموحدة الفوقية |
| (١٧) | ط | الطاء | المهملة |
| (١٨) | ظ | الظاء | المعجمة الموحدةالفوقية |
| (١٩) | ع | العين | المهملة |
| (٢٠) | غ | الغين | المعجمة الموحدة الفوقية |
| (٢١) | ف | الفاء | المعجمة الموحدة الفوقية |
| (٢٢) | ق | القاف | المعجمة المثناة الفوقية |
| (٢٣) | ك | الكاف | المهملة |
| (٢٤) | ل | اللام | المهملة |

(٢٥) م الميم المهملة

(٢٦) ن النون المعجمة الموحدة الفوقية

(٢٧) و الواو المهملة

(٢٨) هـ الهاء المهملة

(٢٩) ي الياء المعجمة المثناة التحتية

ـَـ ـِـ ـُـ ဤအပေါ်နှင့်အောက်တွင်ရှိသော သင်္ကေတတစ်ခုတိုင်းကို حَرَكَةٌ ဟုခေါ်သည်။

حَرَكَةٌ ပါသောအက္ခရာကို مُتَحَرِّكَةٌ ဟုခေါ်သည်။

ဥပမာ-نَ ဤသည်ကို نُوْنٌ مُتَحَرِّكَةٌ ဟုခေါ်သည်။

ـَـ ဤသင်္ကေတကို فَتْحَةٌ (သို့) نَصْبٌ ဟုခေါ်သည်။

ـِـ ဤသင်္ကေတကို كَسْرَةٌ (သို့) جَرٌّ ဟုခေါ်သည်။

ـُـ ဤသင်္ကေတကို ضَمَّةٌ (သို့) رَفْعٌ ဟုခေါ်သည်။

ـْـ ဤသင်္ကေတကို سُكُوْنٌ (သို့) جَزْمٌ ဟုခေါ်သည်။

ـّـ ဤသင်္ကေတကို تَشْدِيْدٌ (သို့) شَدَّةٌ ဟုခေါ်သည်။

فَتْحَةٌ ပါသော အက္ခရာကို مَفْتُوْحَةٌ ဟုခေါ်သည်။

ဥပမာ - بَ ဤသည်ကို بَاءٌ مَفْتُوْحَةٌ ဟုခေါ်သည်။

نَصْبٌ ပါသော စကားလုံးကို مَنْصُوْبَةٌ ဟုခေါ်သည်။

ဥပမာ-بَ ကို بَاءٌ مَنْصُوْبَةٌ ဟုခေါ်သည်။

كَسْرَةٌ ပါသော စကားလုံးကို مَكْسُوْرَةٌ ဟုခေါ်သည်။

ဥပမာ - تِ ဤသည်ကို تَاءٌ مَكْسُوْرَةٌ ဟုခေါ်သည်။

جَرٌّ ပါသော စကားလုံးကို مَجْرُوْرَةٌ ဟုခေါ်သည်။

ဥပမာ-تِ ကို تَاءٌ مَجْرُوْرَةٌ ဟုခေါ်သည်။

ضَمَّةٌ ပါသော အက္ခရာကို مَضْمُوْمَةٌ ဟုခေါ်သည်။

ဥပမာ - ثُ ဤသည်ကို ثَاءٌ مَضْمُوْمَةٌ ဟုခေါ်သည်။

رَفْعٌ ပါသော အက္ခရာကို مَرْفُوْعَةٌ ဟုခေါ်သည်။

ဥပမာ-ثُ ကို ثَاءٌ مَرْفُوْعَةٌ ဟုခေါ်သည်။

سُكُوْنٌ ပါသောအက္ခရာကို سَاكِنَةٌ ဟုခေါ်သည်။

ဥပမာ - جْ ဤပုံစံကို جِيْمٌ سَاكِنَةٌ ဟုခေါ်သည်။

جَزْمٌ ပါသော အက္ခရာကို مَجْزُوْمَةٌ ဟုခေါ်သည်။

ဥပမာ-جْ ကို جِيْمٌ مَجْزُوْمَةٌ ဟုခေါ်သည်။

تَشْدِيْدٌ ပါသောအက္ခရာကို مُشَدَّدَةٌ ဟုခေါ်သည်။

ဥပမာ - حّ ဤပုံစံကို حَاءٌ مُشَدَّدَةٌ ဟုခေါ်သည်။

ـٌـًـٍ ဤအပေါ်နှင့်အောက်တွင်ပါရှိသော သင်္ကေတများအနက် တစ်ခုတိုင်းကို تَنْوِيْنٌ ဟုခေါ်သည်။

تَنْوِيْنٌ ပါသောအက္ခရာကို مُنَوَّنَةٌ ဟုခေါ်သည်။

ဥပမာ - حٌ ဤသည်ကို حَاءٌ مُنَوَّنَةٌ ဟုခေါ်သည်။

ـً ဤသင်္ကေတကို فَتْحَتَانِ ဟုခေါ်သည်။

ـٍ ဤသင်္ကေတကို كَسْرَتَانِ ဟုခေါ်သည်။

ـٌ ဤသင်္ကေတကို ضَمَّتَانِ ဟုခေါ်သည်။

ـٰ ဤသင်္ကေတကို اَلِفٌ مَقْصُوْرَةٌ ဟုခေါ်သည်။

ဥပမာ - مُوسٰى هٰذَا

ـٖ ဤသင်္ကေတကို صِلَةُ الْكَسْرَةِ بِالْيَاءِ ဟုခေါ်သည်။

ဥပမာ - بِهِىْ ⟵⟶ بِهٖ

ـٗ ဤသင်္ကေတကို صِلَةُ الضَّمَّةِ بِالْوَاوِ ဟုခေါ်သည်။

ဥပမာ - رَبُّهُوْ ⟵⟶ رَبُّهٗ

rSwfcsf၊ ။ ـَـِـُ တို့ကိုဖတ်လျှင် حَرَكَةٌ (၂)ခုဆွဲ၍ ဖတ်ရမည်။

## လေ့ကျင့်ခန်း

(၁) نقطة ပါသောအက္ခရာကို မည်သို့ခေါ်သနည်း။

(၂) نقطة မပါသောအက္ခရာကိုမည်သို့ခေါ်သနည်း?

(၃) نقطة တစ်ခုပါသောအက္ခရာကိုမည်သို့ခေါ်သနည်း။

(၄) نقطة နှစ်ခုပါသောအက္ခရာကိုမည်သို့ခေါ်သနည်း?

(၅) نقطة သုံးခုပါသော အက္ခရာကို မည်သို့ခေါ်သနည်း?

(၆) نقطة အပေါ်တွင်ပါသော အက္ခရာကို မည်သို့ခေါ်သနည်း?

(၇) نقطة အောက်တွင်ပါသော အက္ခရာကို မည်သို့ခေါ်သနည်း?

(၈) الحـــروف العـــربية الهجائية ရုပ်ပုံများ၏အမည်နာမများကို ၎င်းတို့နှင့်အမြဲတွဲလျက်ရှိသောအမှတ်သင်္ကေတများနှင့်တကွ ရွတ်ဆိုပြပါ။

(၉) ـَـِـُ ဤသင်္ကေတသုံးခုစလုံးကိုအကြုံးဝင်စေသော အမည်နာမကိုပြောပြပါ။

(၁၀)ဖော်ပြပါသင်္ကေတ  သုံးခုစလုံးကိုအကြုံးဝင်စေသော အမည်နာမပါရှိသည့် အက္ခရာတိုင်းကို မည်သို့ခေါ်ဆိုသနည်း?

(၁၁) ـَـِـُـْـّ ဤသင်္ကေတများအနက် တစ်ခုတိုင်း၏ အမည်နာမများကို ပြောပြပါ။

(၁၂) ـَـِـُـْـّ ဤသင်္ကေတများပါသော အက္ခရာများကို မည်သို့ခေါ်ဆိုသနည်း?

(၁၃) بُّ تِ ثَ جْ حِ عُ دَ ذِ رْ زِّ سَّ شِ صُ ضِ တို့ကို ဖတ်ပြပါ။

(၁၄) ـًـٍـٌ ဤသင်္ကေတများအနက် တစ်ခုတိုင်း၏ အမည်နာမများကို ပြောပြပါ။ ၎င်းနောက် အဆိုပါ သင်္ကေတသုံးခုလုံးကိုပေါင်း၍ခေါ်ဆိုသော အမည်ကိုလည်း ဖော်ပြပါ။

(၁၅) ـًـٍـٌ ဤသင်္ကေတများအနက်မှတစ်ခုခုပါသောအက္ခရာကိုမည်သို့ခေါ်ပါသနည်း။ ဥပမာနှင့်တကွဖတ်ပြပါ။

(၁၆) ـٰـٖـٗ ဤသင်္ကေတများအနက် တစ်ခုတိုင်း၏ အမည်နာမများကို ပြောပြပါ။ အဆိုပါ သင်္ကေတများသည် မည်သည့်အမျိုးအစားတွင် ပါဝင်သနည်း?

(၁၇) ـٰـٖـٗ ဤသင်္ကေတများအနက်မှ တစ်ခုခုပါသောအက္ခရာကို حركة မည်မျှဆွဲ၍ ဖတ်ရသနည်း? ဖြေကြားမှုနှင့်တကွ လက်တွေ့အကောင်အထည်ဖော်ပြပါ။

**ဆရာလမ်းညွှန်**

ဤကဏ္ဍသည် النحو ဆိုင်ရာ စာအုပ်တိုင်းအတွက် အမြဲအသုံးဝင်နေမည်ဖြစ်သောကြောင့် စနစ်တကျ ရှင်းလင်းပြသရမည်။ ထို့နောက် ဦးနှောက်ထဲထိုင်သွားသည်အထိ အလွတ်ကျက်မှတ်ခိုင်းရမည်။

## သင်ခန်းစာ (၂)

## اَلنَّحْوُ ပညာရပ်ဆိုင်ရာ အခြေခံသုတ (၁၀)ပါးအကြောင်း

### ၁။ اَلْحَدُّ (ဖွင့်ဆိုချက်)

لُغَةً အရဗီစာပေ၌ النحو ၏ အဓိပ္ပါယ်မှာ ……

(၁) اَلْقَصْدُ (ရည်ရွယ်ခြင်း) (၂) اَلْمِثْلُ (ကဲ့သို့) (၃) اَلْبَعْضُ (အချို့) ဟူ၍ဖြစ်ပါသည်။

اصطلاحا ပညာရပ်ဆိုင်ရာ ဝေါဟာရအရ ……

အရဗီစာလုံးတို့၏နောက်ဆုံးအက္ခရာတွင်ရှိသော သံတိုသရနှင့်သံရှည်သရတို့၏ ပြောင်းလဲခြင်း/မပြောင်းလဲခြင်းအား လေ့လာသောဘာသာရပ်ကို النحو ပညာရပ်ဟုခေါ်ဆိုပါသည်။

သံတိုသရ၏ ဥပမာ- اَللّٰهُ ـ إِنَّ اللّٰهَ ـ إِلَى اللّٰهِ ☆ هٰذَا كِتَابٌ ـ إِنَّ كِتَابًا ـ فِيْ كِتَابٍ

သံရှည်သရ၏ ဥပမာ - أَبُوْكَ ـ أَبَاكَ ـ أَبِيْكَ

### ၂။ اَلْمَوْضُوْعُ – အခြေခံအဓိကထားလေ့လာမည့်အချက်

النحو ပညာရပ်သည် كَلِمَةٌ (စကားလုံး) နှင့် كَلَامٌ (ဝါကျ) တို့ကိုအခြေခံ အဓိကထားလေ့လာမည်။

### ၃။ اَلثَّمَرَةُ – အကျိုးရလဒ်

اَلنَّحْوُ ပညာရပ်ကို သင်ယူခြင်းဖြင့် ရရှိလာမည့် အကျိုးရလဒ်များမှာ. . . .

(၁) ကျမ်းတော်မြတ်ကုရ်အာန် နှင့် ဟဒီးစ်တော်များအား ဖတ်ရွတ်ရာတွင် မှားယွင်းမှုများမှ နုတ်လျှာကို ထိမ်းသိန်းပေးခြင်း။

(၂) ကျမ်းတော်မြတ်ကုရ်အာန် နှင့် ဟဒီးစ်တော်များကို လွယ်ကူစွာ သဘောပေါက်နိုင်ရန်အတွက် အထောက်အကူဖြစ်စေခြင်း။

(၃) အရဗီစာပေ ပြောဆိုရေးသားရာတွင် အမှားများကင်းစင်ပြီး မှန်ကန်စွာ ပြောဆိုရေးသားနိုင်ခြင်းတို့ဖြစ်သည်။

## ၄။ اَلْفَضْلُ – ထွဋ်မြတ်မှု

اَلنَّحْوُ ပညာရပ်၏ထွဋ်မြတ်မှုမှာ ……

(၁) اَلنَّحْوُ ပညာရပ်သည် ပညာရပ်အပေါင်း၏ဖခင်ဖြစ်သည်။

(၂) تَعَلَّمُوْا النَّحْوَ وَالْفَرَائِضَ فَإِنَّهُ مِنْ دِيْنِكُمْ ဟဇရတ်အုမရ် ﷺ သခင်အမိန့်ရှိခဲ့သည်။ "အသင်တို့သည် النحو ပညာရပ် နှင့်အမွေပညာရပ်ကို သင်ယူကြလေကုန်။ ထိုပညာရပ်တို့သည် အသင်တို့ သာသနာ၏ (အရေးပါသော ကဏ္ဍ) ထဲမှ ဖြစ်သည်"။

## ၅။ اَلنِّسْبَةُ – ပတ်သက်ဆက်နွယ်မှု

اَلنَّحْوُ ပညာရပ်၏ ပတ်သက်ဆက်နွယ်မှုမှာ……

اَلنَّحْوُ ပညာရပ်သည် ကုရ်အာန်နှင့်ဟဒီးဆ်တော်များအားနားလည်ရာတွင် အထောက်အကူ ဖြစ်စေမည့် ဘာသာရပ်များနှင့် ပတ်သက်ဆက်နွယ်နေသည်။

## ၆။ اَلْوَاضِعُ – စတင်မျိုးစေ့ချခဲ့သူ

اَلنَّحْوُ ပညာရပ်ကို ပထမဆုံး မျိုးစေ့ချခဲ့သူမှာ (رحمه الله) أَبُوْ الأَسْوَدِ الدُّؤَلِيُّ ဖြစ်သည်။ သခင်သည် ဟဇရတ်အလီ ﷺ ၏ အမိန့်ဖြင့် ပြုစုခဲ့သည်။

## ၇။ اَلْاِسْمُ – အမည်နာမ

اَلنَّحْوُ ပညာရပ်၏အမည်နာမမှာ……

عِلْمُ النَّحْوِ ဟူ၍ဖြစ်သည်။

## ၈။ اَلْاِسْتِمْدَادُ – မှီငြမ်းကိုးကားချက်

اَلنَّحْوُ ပညာရပ်ကို ပြုစုရာတွင် (၁) ကျမ်းတော်မြတ်ကုရ်အာန်၊ (၂) ဟဒီးစ်တော်များ(၃)အရဗ်တို့၏ ရှေးဟောင်းစာပေနှင့် ဂန္ထဝင်ကဗျာများကို မှီငြမ်းကိုးကားပါသည်။

## ၉။ حُكْمُ الشَّارِعِ – တရားတော်လာအမိန့်

اَلنَّحْوُ ပညာရပ်ကို သင်ယူခြင်းသည် فَرْضُ كِفَايَةٍ မိမိအရပ်ဒေသ၌ အချို့၏ သင်ယူဆည်းပူးခြင်းကြောင့် အခြားသူများပေါ်မှတာဝန်ကျသွားသော အမိန့်ဖြစ်သည်။

## ၁၀။ اَلْمَسَائِلُ – အသေးစိတ်နည်းဥပဒေများကိုသိရှိနားလည်စေနိုင်သော အခြေခံဥပဒေများ

النحوပညာရပ်တွင်လည်း အသေးစိတ်နည်းဥပဒေများကိုသိရှိနားလည်စေနိုင်သော အခြေခံဥပဒေများ ရှိသည်။ ရှေ့လာမည့် သင်ခန်းစာမှ စ၍ အဆုံးထိ သင်ခန်းစာများသည် النحو ပညာရပ်၏ အခြေခံဥပဒေ များသာ ဖြစ်သည်။



### ပညာရပ်ဆိုင်ရာ အခြေခံသုတ (၁၀)ပါး ဇယား

مَبَادِئُ الْعِلْمِ الْعَشَرَةُ

الحد الموضوع الثمرة الفضل النسبة الواضع الاسم الاستمداد حكم الشارع المسائل

### ပညာရပ်ဆိုင်ရာ အခြေခံသုတ (၁၀) ပါး ကဗျာ

إِنَّ مَبَادِئ كُلِّ عِلْمٍ عَشَرَةْ ☆ اَلْحَدُّ وَ الْمَوْضُوْعُ ثُمَّ الثَّمَرَةْ

وَ فَضْلُهُ وَ نِسْبَةٌ وَ الْوَاضِعْ ☆ وَالْإِسْمُ وَالْإِسْتِمْدَادُ حُكْمُ الشَّارِعْ

مَسَائِلُ وَالْبَعْضُ بِالْبَعْضِ اكْتَفٰى ☆ وَمَنْ دَرٰى الْجَمِيْعَ حَازَ الشَّرَفَا

### လေ့ကျင့်ခန်း

(၁) النحو ပညာရပ်၏ الحد (ဖွင့်ဆိုချက်) ကိုရေးသားပါ။

(၂) النحو ပညာရပ်၏ အဓိကထားလေ့လာမည့်အချက်ကိုရေးပါ။

(၃) မည်သည့်အကျိုးရလဒ်များအတွက် النحو ပညာရပ်ကို သင်ယူဆည်းပူးနေသနည်း။

(၄) النحو ပညာရပ်တွင် မည်သည့်ထွင့်မြတ်မှုများရှိသနည်း။

(၅) မည်သည့်ပညာရပ်များနှင့် النحو ပညာရပ်သည် ပတ်သက်ဆက်နွယ်နေသနည်း။

(၆) أبوالأسود الدؤلي သည် မည်သူဖြစ်သနည်း။

(၇) النحوပညာရပ်၏ အမည်ကိုပြောပြပါ။

(၈) النحو ပညာရပ်ကိုပြုစုရာတွင် မည်သည့်အချက်များမှ အကူအညီရယူထားသနည်း။

(၉) النحو ပညာရပ်ကို သင်ယူရခြင်းဆိုင်ရာ တရားတော်လာအမိန့်ကို ရှင်းပြပါ။

(၁၀) النحو ပညာရပ်၏ مسائل ဟူသည်ကို ရှင်းပြပါ။

(၁၁) مبادئ العلم العشرة ဆိုင်ရာ ကဗျာကိုအလွတ်ဆိုပြပါ။

## သင်ခန်းစာ (၃)

## لَفْظٌ (စကားလုံး) အကြောင်း

လူတို့၏ နှုတ်မှထွက်သော စကားသံဟူသမျှကို لَفْظٌ ဟုခေါ်သည်။ ဥပမာ- زَيْدٌ ၊ دَيْزٌ

لَفْظٌ နှစ်မျိုးရှိသည်။

(၁) مَوْضُوْعٌ (အနက်အဓိပ္ပါယ်ရှိသော စကားသံ) ၎င်းကို كَلِمَةٌ ဟုလည်းခေါ်ပါသည်။

(၂) مُهْمَلٌ (အနက်အဓိပ္ပါယ်မရှိသောစကားသံ)

### كَلِمَةٌ (အနက်အဓိပ္ပါယ်ရှိသော စကားသံ)

လူတို့၏နှုတ်မှထွက်ပြီး လူအချင်းချင်း အပြန်အလှန်ဆက်သွယ်နိုင်သော အနက်အဓိပ္ပါယ်ရှိသည့် အသံကို كَلِمَةٌ ဟု ခေါ်သည်။

ဥပမာ- كِتَابٌ (စာအုပ်) ၊ رَجُلٌ (အမျိုးသား) ၊ جَلَسَ (ထိုသူ(၁) ဦးထိုင်ခဲ့သည်။)၊ مِنْ (မှ) ၊ فِيْ (၌)

အနည်းဆုံး كَـلِـمَـةٌ (၂) ခုပေါင်းစပ်ထားပြီး ပြည့်ဝသောအနက်အဓိပ္ပါယ်ရှိသည့် စကားစုကို كَلَامٌ (ဝါကျ) ဟုခေါ်သည်။

ဥပမာ- اَللّٰهُ وَاحِدٌ (အလ္လာဟ်အရှင်မြတ်သည် တစ်ပါးတည်း တည်ရှိတော်မူသည်။)

خَرَجَ حَامِدٌ مِنَ الْمَسْجِدِ (ဟာမိဒ်သည်ဗလီမှထွက်ခဲ့သည်။)

### مُهْمَلٌ (အနက်အဓိပ္ပါယ်မရှိသောစကားသံ)

လူတို့၏နှုတ်မှထွက်သော်ငြားလည်း လူအချင်းချင်း အပြန်အလှန်ဆက်သွယ်မှု မပြုနိုင်၊ အနက်အဓိပ္ပါယ်လည်းမရှိသည့် အသံကို مُهْمَلٌ ဟုခေါ်သည်။

ဥပမာ- دَيْزٌ (دَيْزٌ သည် زَيْدٌ ၏ ပြောင်းပြန်ဖြစ်သည်။)



لَفْظٌ

مَوْضُوْعٌ / كَلِمَةٌ ——— مُهْمَلٌ

### လေ့ကျင့်ခန်း

(၁) لفظ ဟူသည်မှာ အဘယ်နည်း။ (၂) لفظ မည်မျှရှိသနည်း။

(၃) موضوع နှင့် مهمل တို့ကို ဥပမာနှင့်တကွရှင်းပြပါ။ (၄) كلمة နှင့် كلام တို့ကို ရှင်းပြပါ။

(၅) အောက်ပါစကားလုံးတို့အနက်မှ موضوعနှင့် مهمل တို့ကို ရှင်းပြပါ။

كِتَابٌ ـ ضَشَطْ ـ عَسْجَدْ ـ خِطَابٌ ـ إِبْرِيْقٌ ـ جُنْتَا ـ قَلَمٌ ـ صَتَزْ

**ဆရာလမ်းညွှန်**

ဤကဏ္ဍသည်အလွန်ရေးပါသော ကဏ္ဍဖြစ်သောကြောင့် ဦးစွာ နားလည်သည်အထိရှင်းပြရမည်။ လိုအပ်ပါက White board ကိုလည်း အသုံးပြုပါ။ ကျောင်းသားများမရောက်ရှိသေးသော مضـاف إليه အကြောင်း၊ فـــــــــو ـــــــــص ــــــــــ ـــــــوအကြောင်းတို့နှင့်ပတ်သက်ပြီးလည်း သဘောတရားကိုမိတ်ဆက်ပေးပါ။ ထိုနောက်သင်ခန်းစာတစ်ခုလုံးကိုအလွတ်ကျက်မှတ်ခိုင်းပါ။

## သင်ခန်းစာ (၄)

## كَلِمَةٌ ၏အမျိုးအစားများ အကြောင်း

كَلِمَةٌ သည် (၃)မျိုးရှိသည်။

(၁) اِسْمٌ (နာမ်) (၂) فِعْلٌ (ကြိယာ) (၃) حَرْفٌ (ဝိဘတ်)

## (၁) اِسْمٌ (နာမ်)

اِسْمٌ (နာမ်) - သက်ရှိ၊ သက်မဲ့၊ ဒြပ်ရှိ၊ ဒြပ်မဲ့တို့၏အမည်ဟူသရွေ့တို့ကို اِسْمٌ (နာမ်) ဟုခေါ်သည်။
ဥပမာ- حُبٌّ -ကြင်နာခြင်း၊ ضَرْبٌ - ရိုက်ခြင်း၊ ضَارِبٌ - ရိုက်သူ၊ خَالِدٌ - အမည်၊ بَيْتٌ (အိမ်)

## عَلاَمَاتُ الْاِسْمِ – နာမ် ၏ အမှတ်အသားများ

၁။ စာလုံး၏အစ၌ (اَلْ) ဝင်ရောက်ခြင်း။

ဥပမာ-اَلْمَدْرَسَةُ (ကျောင်း) ၊ اَلضَّرْبُ (ရိုက်ခြင်း) ၊ اَلْكِتَابُ (စာအုပ်)

၂။ حَرْفُ الْجَرِّ ဝင်ရောက်ခြင်း။

ဥပမာ- مِنَ الْمَسْجِدِ (ဗလီမှ) - لِلرَّبِّ (ဖန်ဆင်းရှင်အတွက်) - فِي الْبَيْتِ (အိမ်ထဲ၌)
عَلَى الْمَكْتَبِ (စားပွဲပေါ်တွင်) اِلَى الْمَدْرَسَةِ (ကျောင်းသို့)

၃။ စာလုံး၏နောက်ဆုံးတွင် تنوين ( ـــــٍ ـــٌ ) ဝင်ရောက်ခြင်း။

ဥပမာ- قَلَمٌ (ကလောင်တံ) ၊ صَنَمٌ (ရုပ်တု) ၊ وَلَدٌ (ကလေး)

၄။ مضاف إليه - ဖြစ်ခြင်း။

ဥပမာ- قَلَمُ زَيْدٍ - ဇိုင်ဒ်၏ကလောင်။ حُجْرَةُ الدَّرْسِ (စာသင်ခန်း)

၅။ تَثْنِيَةٌ ဖြစ်ခြင်း။ ဥပမာ- كِتَابَانِ (စာအုပ်နှစ်အုပ်) ၊ مِرْسَمَتَانِ (ခဲတံနှစ်ချောင်း)

၆။ جمعٌ ဖြစ်ခြင်း။ ဥပမာ- كُتُبٌ (စာအုပ်များ) ၊ طُلاَّبٌ (ကျောင်းသားများ)

၇။موصوفٌဖြစ်ခြင်း။ ဥပမာ- وَلَدٌ جَمِيْلٌ (လှပသောကလေး)၊ سَبُّوْرَةٌ صَغِيْرَةٌ (သေးသောသင်ပုန်း)

၈။ مُنَادٰى ဖြစ်ခြင်း။ ဥပမာ-يَارَبُّ (အို-အရှင်)၊ يَاخَالِقُ (အို-ဖန်ဆင်းတော်မူသောအရှင်)

မှတ်ချက်။ حروف الـنداء များသည် فعل နှင့် حرف တို့အပေါ် မဝင်ရောက်ပါ။ مُـنَادٰى တွင် تنوين ဝင်ရောက်မည်မဟုတ်ပါ။

## (၂) فِعْلٌ (ကြိယာ)

فِـعْـلٌ (ကြိယာ) - အချိန်ကာလနှင့်တကွ အဓိပ္ပါယ်ဖော်ပြသော كَـلِـمَةٌ တိုင်းကို فِـعْـلٌ (ကြိယာ) ဟုခေါ်သည်။

ဥပမာ- يَنْصُرُ = ကူညီနေသည်။ جَلَسَ = ထိုင်ခဲ့သည်။ قَدْ ضَرَبَ = မကြာမီက ရိုက်ခဲ့သည်။

## عَلاَمَاتُ الْفِعْلِ – ကြိယာ၏အမှတ်အသားများ

၁။ فِعْلٌ ၏ အဆုံးတွင် تاء الفاعل (ကတ္တားညွှန်သော تاء ) ရှိခြင်း။

ဥပမာ- كَسَرْتُ (ကျွန်တော်ရိုက်ချိုးခဲ့သည်။)၊ فَهِمْتَ ( အသင်နားလည်ခဲ့သည်။)

فَهِمْتِ (အသင်မတစ်ဦးနားလည်ခဲ့သည်။)

၂။ فِعْلٌ ၏ အဆုံးတွင် تاء التأنيث الساكنة (تْ) ရှိခြင်း။

ဥပမာ- سَجَدَتْ فَاطِمَةُ (ဖွာသွေမာသည် စဂျ်ဒဟ်ပြုလုပ်ခဲ့သည်။)

၃။ فِعْلٌ ၏ အဆုံးတွင် يَاءُ الْمُخَاطَبَةِ ရှိခြင်း။

ဥပမာ= اِجْلِسِي (အသင်မတစ်ဦးထိုင်ပါ။)၊ تَجْلِسِيْنَ (အသင်မထိုင်နေသည်။)

၄။فِعْلٌ ၏ အဆုံးတွင် نُوْنُ التَّوْكِيْدِ ရှိခြင်း။

ဥပမာ- لَيَذْهَبَنَّ (ထိုသူမုချဧကန်သွားမည်။)၊ لَيَذْهَبَنْ (ထိုသူမုချသွားမည်။)

၅။ فعل ၏ အစတွင် السين ဝင်ရောက်ခြင်း

ဥပမာ- سَيَقُوْلُ (ထိုသူမကြာခင်ပြောမည်။)

၆။ فعل ၏ အစတွင် سَوْفَ ဝင်ရောက်ခြင်း

ဥပမာ- سَوْفَ تَعْلَمُوْنَ (အသင်တို့မကြာမီသိရှိကြလိမ့်မည်။)

၇။ فعل ၏ အစတွင် قَدْ ဝင်ရောက်ခြင်း

ဥပမာ - قَدْ سَمِعَ (ထိုသူတစ်ဦး မကြာမီက ကြားခဲ့သည်။)



## (၃) حَرْفٌ (ဝိဘတ်)

(၃) اِسْمٌ (သို့) فِعْلٌ တစ်ခုခုနှင့်မပေါင်းစပ်ဘဲ ပြည့်ဝသောအနက်အဓိပ္ပါယ်ကို ဖော်ပြနိုင်ခြင်း မရှိသော كَلِمَةٌ ကို حَرْفٌ (ဝိဘတ်) ဟုခေါ်သည်။

ဥပမာ- إلى = သို့၊ ထိ၊ တိုင်အောင်။ من = မှ၊ ထဲမှ။ في = ၌၊ မှာ၊ တွင်၊ ဝယ်။

## عَلاَمَاتُ الْحَرْفِ – (ဝိဘတ်) ၏ အမှတ်အသားများ

علامات الاسم နှင့် علامات الفعل မရှိခြင်းသည် حرف ၏ အမှတ်အသားဖြစ်သည်။

حرف သည် (၂)မျိုးရှိသည်။

(၁) مُخْتَصٌّ (သီးသန့်ဖြစ်သော حَرْفٌ)

(၂) غَيْرُ مُخْتَصٍّ (သီးသန့်မဟုတ်သော حَرْفٌ)

مختصّ (သီးသန့်ဖြစ်သော حَرْفٌ) သည် (၂)မျိုးရှိပြန်သည်။

(၁) اِسْمٌ အတွက်သီးသန့်လာရှိသော حرف များ ဥပမာ- الحروف الجارة

الحروف الجارة ဆိုသည်မှာ اسم ကို جَرٌّ ပေးသောအက္ခရာများဖြစ်သည်။၎င်းတို့သည် (၁၇) လုံးရှိသည်။

**باء، تاء، كاف، لام، واو، مُنْذُ، مُذْ، خَلاَ**

**رُبَّ، حَاشَا، مِنْ، عَدَا، فِي، عَنْ، عَلىٰ، حَتّٰى، إِلىٰ**

(၂) فِعْلٌ အတွက်သီးသန့်လာရှိသော حرف များ

ဥပမာ- اَلْحُرُوْفُ الْجَازِمَةُ (فِعْلٌ ကို جَزْمٌ ပေးသောအက္ခရာများ) ဥပမာ - لَمْ يَفْعَلْ

اَلْحُرُوْفُ النَّاصِبَةُ (فعل ကို نَصْبٌ ပေးသောအက္ခရာများ) ဥပမာ -أَنْ يَّفْعَلَ

غَيْرُ مُخْتَصٍّ (သီးသန့်မဟုတ်သော حَرْفٌ) သည် فِعْلٌ နှင့် اِسْمٌ (၂)မျိုးစလုံးအတွက်လာရှိသည်။

ဥပမာ - هَلْ الطَّالِبُ مُجْتَهِدٌ؟ (ကျောင်းသားကြိုးစားသလား။)

هَلْ ذَهَبَ الطَّالِبُ؟ (ကျောင်းသားသွားခဲ့သလား။)






## လေ့ကျင့်ခန်း

(၁) كلمة ၏အမျိုးအစားမည်မျှရှိသနည်း။ ၎င်းတို့ကိုဥပမာနှင့်တကွဖော်ပြပါ။

(၂) علامات الاسم မည်မျှရှိသနည်း။ ဥပမာများနှင့်တကွ ရေတွက်ပြပါ။

(၃) အောက်ပါစာလုံးများမှ اسم - فعل - حرف တို့ကို အောက်ပါဇယားအတိုင်း ခွဲခြားပြပါ။
၎င်းတို့၏ အမှတ်အသားတို့ကိုလည်း ဖော်ပြပါ။ ဥပမာ -

| اسم | فعل | حرف | အမှတ်အသားများ |
|---|---|---|---|
| اَلرَّخِيْصُ | | | أل - ဝင်ရောက်ခြင်း |

الرَّخِيْصُ - كِتَابُ خَالِدٍ - فِي الْغُرْفَةِ - حِبْرٌ - الْكُرّاسَةُ - سَوْفَ نُصَلِّي - إِلَى الْبَيْتِ - لِلصَّلاَةِ - فِي اللَّيْلِ - القِطَارُ - تُفَّاحٌ - المَسْجِدُ - كُتُبٌ - أَمْكُثُ - لَمْ يَسْجُدْ - أَنْ يَّعْبُدَ - قَدْقَالَ - رَجُلاَنِ - دَخَلْتَ - إِبْرِيْقٌ - اِضْرِبِي - سَيَذْهَبُ - اَلْكُرَّاسَةُ - قَدْ مَاتَ - سَوْفَ تَرٰى - طُلَّابٌ - مَنْ - كَسَرَ - اَلْأَصْنَامُ.

(၄) အောက်ပါဝါကျများမှ اسم - فعل - حرف များကို ထုတ်ပြပါ။ ဥပမာ-

| اسم | فعل | حرف |
| --- | --- | --- |
| إبراهيم | عرف | أنَّ |

عَرَفَ إِبْرَاهِيْمُ أَنَّ اللّٰه رَبُّهٗ . لِأَنَّ اللّٰه حَيٌّ لَايَمُوْتُ .

وَأَنَّ اللّٰه بَاقٍ لَا يَغِيْبُ . وَأَنَّ اللّٰه قَوِيٌّ لَا يَغْلِبُهٗ شَيْءٌ .

كَانَ فِيْ الْمَدِيْنَةِ مَلِكٌ . مَلِكٌ كَبِيْرٌ جِدّاً .

وَظَالِمٌ جِدّاً وَكَانَ النَّاسُ يَسْجُدُوْنَ لِلْمَلِكِ .

دَعَا إِبْرَاهِيْمُ قَوْمَهٗ إِلَى اللّٰهِ وَمَنَعَهُمْ مِنْ عِبَادَةِ الْأَصْنَامِ .

(၅) အသင်တို့၏အတန်းစာများထဲမှ اسم (၁၀)ခု၊ فعل (၁၀)ခုနှင့် حرف (၁၀)ခုတို့ကို ထုတ်နုတ်ရေးသားပါ။

## သင်ခန်းစာ (၅)

## مَعْرِفَةٌ (တစ်ဦးဆိုင်နာမ်) နှင့် نَكِرَةٌ (အများဆိုင်နာမ်) အကြောင်း

အနက်အဓိပ္ပါယ် တိကျခြင်း/မတိကျခြင်းပေါ်အခြေခံ၍ اسم (၂)မျိုးရှိသည်။

(၁) مَعْرِفَةٌ (တိကျနာမ်) (၂) نَكِرَةٌ (မတိကျနာမ်)

၁။ ပုဂ္ဂိုလ်တစ်ဦးတစ်ယောက် (သို့) အရာဝတ္ထုတစ်ခုအတွက် သီးသန့်အနက်အဓိပ္ပါယ်ပေးသော اسم တိုင်းကို مَعْرِفَةٌ ဟုခေါ်သည်။

ဥပမာ= خالدٌ - လူတစ်ဦး၏သီးသန့်အမည်။ وَالِدِيْ - ကျွန်တော့်အဖေ။

يَانْغُوْنْ - မြို့တစ်မြို့အမည်။ هَذَا الإِبْرِيْقُ - ဤလော်တာအိုး

၂ ။ အများနှင့်သက်ဆိုင်သော ပုဂ္ဂိုလ်၊ သတ္တဝါ၊ အရာဝတ္ထုတိုင်း၏ အမည်များကို نَـــــــكِـرَةٌ (မတိကျနာမ်) ဟုခေါ်သည်။

ဥပမာ= رَجُلٌ - လူတစ်ယောက်။ فَرَسٌ - မြင်းတစ်ကောင်။

مَاءٌ - ရေ။ لَحْمٌ - အသား။

မှတ်ချက်။ ။ نَــــــكِـرَةٌ ကိုဘာသာပြန်ဆိုရာတွင် (တစ်ခု၊ တစ်ကောင်၊ တစ်ယောက်) စသည်တို့ဖြင့် ပြန်ဆိုရသည်။

## مَعْرِفَةٌ ၏အမျိုးအစားများ

مَعْرِفَةٌ ၏ အမျိုးအစားများမှာ (၇) မျိုးရှိပါသည်။

၁။عَــلَــمٌ (တစ်ဦးဆိုင်နာမ်) ၎င်းသည် လူပုဂ္ဂိုလ်တစ်ဦး၊ အရာဝတ္ထုတစ်ခုအတွက် သီးသန့် မှည့်ထားသောအမည်ကိုခေါ်သည်။

ဥပမာ= عَبْدُ اللّٰهِ ـ مَكَّةُ ـ المَدِيْنَةُ ـ يَانْغُوْنْ ـ مَيَانْمَا ـ خَالِدٌ ـ مَحْمُوْدٌ

၂။مُعَرَّفٌ بِاللاَّمِ ဖြစ်ခြင်း ( نَكِرَةٌ တစ်ခုတွင် أَلْ ဝင်ရောက်ခြင်း)

ဥပမာ- اَلْبَيْتُ မှ بَيْتٌ - اَلْكِتَابُ မှ كِتَابٌ - اَلرَّسُوْلُ မှ رَسُوْلٌ

မှတ်သားရန်

(က) أَلْ ပါရှိသောစာလုံးတွင် تنوين (ـــٌــٍــً) လာမည်မဟုတ်ပေ။

(ခ) عَــلَمٌ သီးခြားမှည့်ခေါ်ထားသောအမည်များအပေါ်တွင် أَلْ လာမည်မဟုတ်ပေ။ သို့သော် အချို့အမည်များအပေါ်တွင် أَلْ သည် အမြဲတွဲလျက်လာရှိနေတတ်သည်။ ၎င်း أَلْ ကိုဖြုတ်ချ၍မရပါ။

ဥပမာ- اَلْــعِرَاقُ ၊ اَلْمَدِيْنَةُ နှင့် اَلْبَـصَرَةُ အစရှိသည့်အမည်များ

၃။ أَسْمَاءُ الإِشَارَةِ - အညွှန်းနာမ်စားများ

အညွှန်းနာမ်စားများမှာ (၂) မျိုးရှိသည်။ (၁)အနီးညွှန်နာမ်စားများ (၂) အဝေးညွှန်နာမ်စားများ

**အနီးညွှန်နာမ်စားများ**

| | واحد | تثنية | جمع |
|---|---|---|---|
| مذكر | هٰذَا - ဤသူ၊ အရာ (ဖို) | هٰذَانِ/هَاذَيْنِ ဤအရာနှစ်ခု - (ဖို) | هٰؤُلَاءِ ဤအရာများ (ဖို) |
| مؤنث | هٰذِهِ -ဤသူမ၊ အရာ (မ) | هَاتَانِ/هَاتَيْنِ ဤအရာနှစ်ခု- (မ) | هٰؤُلَاءِ ဤအရာများ (မ) |

**အဝေးညွှန်နာမ်စားများ**

| | واحد | تثنية | جمع |
|---|---|---|---|
| مذكر | ذٰلِكَ - ထိုသူ၊ အရာ (ဖို) | ذَانِكَ/ذَيْنِكَ - ထိုအရာနှစ်ခု - (ဖို) | أُولٰئِكَ ထိုအရာများ (ဖို) |
| مؤنث | تِلْكَ -ထိုသူမ၊ အရာ (မ) | تَانِكَ/تَيْنِكَ - ထိုအရာနှစ်ခု- (မ) | أُولٰئِكَ ထိုအရာများ (မ) |

၄။ اَلضَّمِيْرُ - နာမ်စား

الضمير (နာမ်စားများ)။အရဗီစာပေတွင် နာမ်စားပေါင်း (၇၀) ရှိသည်။ယင်းတို့သည်(၁၄)ခုပေါ်တွင် အခြေခံသည်။ ၎င်းအခြေခံနာမ်စား(၁၄)ခုမှာ အောက်ပါအတိုင်းဖြစ်သည်။

| စဉ် | နာမ်စား | အဓိပ္ပါယ် | မှတ်ချက် |
|---|---|---|---|
| ၁ | هُوَ | ထိုသူ(၁)ဦး | |
| ၂ | هُمَا | ထိုသူ(၂) ဦး | |
| ၃ | هُمْ | ထိုသူများ | |
| ၄ | هِيَ | ထိုသူမ(၁)ဦး | |
| ၅ | هُمَا | ထိုသူမ(၂) ဦး | (၅)သည်(၂)ကဲ့သို့ပင်ဖြစ်သည်။ |
| ၆ | هُنَّ | ထိုသူမများ | |
| ၇ | أَنْتَ | အသင်(၁)ဦး | |
| ၈ | أَنْتُمَا | အသင်(၂) ဦး | |
| ၉ | أَنْتُمْ | အသင်များ | |
| ၁၀ | أَنْتِ | အသင်မ(၁) ဦး | |
| ၁၁ | أَنْتُمَا | အသင်မ(၂) ဦး | (၈) သည် (၁၁) ကဲ့သို့ဖြစ်သည်။ |
| ၁၂ | أَنْتُنَّ | အသင်မများ | |
| ၁၃ | أَنَا | ကျွန်တော် (သို့) ကျွန်မ(၁) ဦး | |
| ၁၄ | نَحْنُ | ကျွန်တော်၊မ(၂)ဦး၊ (သို့) ကျွန်တော်၊ကျွန်မများ | |

၅။ الأسْمَاءُ الْمَوْصُوْلَةُ ပြန်ညွှန်းနာမ်စားများ -၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

ပြန်ညွှန်းနာမ်စားများ

| جمع | تثنية | واحد | |
|---|---|---|---|
| اَلَّذِيْنَ | اَللَّذَانِ / اَللَّذَيْنِ | اَلَّذِيْ | مذكر |
| اَللَّاتِيْ/اَللَّائِيْ/اَللَّوَاتِيْ | اَللَّتَانِ / اَللَّتَيْنِ | اَلَّتِيْ | مؤنث |

ဥပမာ- جَاءَ الذِيْ نَجَحَ فِيْ الِامْتِحَانِ (စာမေးပွဲတွင် အောင်မြင်ခဲ့သောသူ လာခဲ့သည်။)

ဖေါ်ပြပါဥပမာတွင်ပါသော الـــذي သည် မိမိအလျှင်ရှိသော جـــــاء တွင်ပါရှိသည့် هـــو ကို ပြန်ညွှန်းသောကြောင့် اسم الموصول (ပြန်ညွှန်းနာမ်စား ) ဖြစ်သည်။

၆။ مُنَادٰى (အခေါ်ခံနာမ်) ဖြစ်ခြင်း ။ ဥပမာ- يَارَجُلُ ، يَاوَلَدُ ، يَاعَبْدَاللّٰهِ

حروف النداء (၅) လုံးရှိသည်။

يا - أيا - هَيا - أي - أ

၇။ معـــرفة (တိကျနာမ်) ဘက်သို့ إضــافة ဖြစ်ခြင်း။ ဆိုလိုသည်မှာ معـــرفة ၏ပထမ(၅)မျိုး အနက် တစ်ခုခုဘက်သို့ إضافة ဖြစ်ခြင်း။

ဥပမာ- كِتَابُ مَحْمُوْدٍ = မဟ်မူးဒ်၏စာအုပ်။

كِتَابُ الرَّجُلِ = အမျိုးသား၏စာအုပ်။

كِتَابُهُ = သူ၏စာအုပ်။

كِتَابُ الَّذِيْ جَاءَ = လာခဲ့သောသူ၏စာအုပ်။






(١) علم (٢) معرف باللام

(٣) أسماء الإشارة (٤) ضمير

(٥) الأسماء الموصولة (٦) منادى

(٧) المضاف إلى معرفة

## လေ့ကျင့်ခန်း

(၁) معرفة နှင့် نكرة တို့၏ဖွင့်ဆိုချက်ကို ရေးပါ။

(၂) معرفة ၏အမျိုးအစားများကို ဥပမာများနှင့်တကွ ရေးပါ။

(၃) အောက်ပါစာလုံးများအနက် معرفة နှင့် نكرة တို့ကို ခွဲခြား၍ အဓိပ္ပါယ်ပြန်ပါ။

(၁) القلمُ (၂) المِحْبَرُ (၃) الوَرَقُ (၄) السَّقَفُ (၅) الكتابُ (၆) كُرَّاسةٌ (၇) السَبُّوْرَةُ

(၈) حِبْرٌ (၉) البستانُ (၁၀) الشجرُ (၁၁) غُصْنٌ (၁၂) الزهرُ (၁၃) فاكهةٌ (၁၄) المِفتاحُ

(၁၅) البابُ (၁၆) قُفْلٌ (၁၇) الثمرُ (၁၈) جدارٌ (၁၉) مريمُ (၂၀) بيتٌ

(၄) အောက်ပါမြန်မာစာလုံးများကို معرفة နှင့် نكرة ခွဲ၍ အရဗီလိုပြန်ဆိုပါ။

(၁) ပန်ကာတစ်ခု၊ (၂) ပုဝိန်တစ်လက်၊ (၃) ကြွက်တစ်ကောင်၊ (၄) ရုပ်ထုများ၊

(၅) ကြောင်၊ (၆) သစ်ပင်တစ်ပင်၊ (၇) ဥယျာဉ်၊ (၈) စာအုပ်များ၊

(၉) အကျႌ၊ (၁၀) သော့တစ်ချောင်း (၁၁) ကျောင်း (၁၂) ရေသုတ်ပုဝါတစ်ခု

(၁၃) စာအုပ် နှင့် ခဲတံ (၁၄) ကျောင်း နှင့် ကျောင်းသား (၁၅) မီးအိမ် နှင့် မီးစာ

(၁၆) ထိုသူ၏စာအုပ် (၁၇) ထိုသူမ၏ ခဲတံ (၁၈) ဟာမိဒ် နှင့် စားပွဲခုံတစ်လုံး

(၁၉) ဖွာသွေ့မယ် နှင့် မင်စုတ်တံတစ်ခု (၂၀) စာသင်ခန်း နှင့် ကျောင်းသားများ

(၅) အောက်ပါအရဗီစာလုံးများကို ال ထည့်၍ရေးသားပြပါ။ ထို့နောက် إعراب တပ်ပေးပါ။

(၁) زيد (၂) عبد الرشيد (၃) حامد (၄) فاطمة (၅) خالد

(၆) عبد الرحمن (၇) عبد الله (၈) طلحة (၉) أسامة (၁၀) عبد المالك

(၆) အောက်ပါအရဗီစာလုံးများကို မြန်မာဘာသာသို့ပြန်ဆိုပါ။

(၁) حجرة الدرس (၂) كتاب زيد (၃) سيارة المدرسة (၄) سبورة الفصل

(၅) نشافة الرجل (၆) فانوس حامد (၇) قلم الطبيب (၈) إبريق الأستاذ

**ဆရာလမ်းညွှန်**

ဤကဏ္ဍသည်အလွန်ရေးပါသော ကဏ္ဍဖြစ်သောကြောင့် ဦးစွာ နားလည်သည်အထိရှင်းပြရမည်။ ထိုနောက်သင်ခန်းစာတစ်ခုလုံးကိုအလွတ်ကျက်မှတ်ခိုင်းပါ။လေ့ကျင့်ခန်းများကို ပြည့်ပြည့်ဝဝ ပြုလုပ်ခိုင်းပါ။

## သင်ခန်းစာ (၆)

## مُذَكَّرٌ (ဖို) နှင့် مُؤَنَّثٌ (မ) အကြောင်း

ဖိုနှင့်မ သဘာဝကို အခြေခံ၍ اِسْمٌ (၂)မျိုးရှိသည်။

၁။ مُذَكَّرٌ　　　　၂။ مُؤَنَّثٌ

(၁) ယောကျ်ားသဘာဝ ၊ ဖိုသဘာဝရှိသော اِسْمٌ တိုင်းကို مُذَكَّرٌ ဟုခေါ်သည်။

ဥပမာ - رَجُلٌ (ယောကျ်ား)၊ كِتَابٌ (စာအုပ်) ၊ فَرَسٌ (မြင်း)

(၂) မိန်းမသဘာဝ၊ မသဘာဝရှိသော اِسْمٌ တိုင်းကို مُؤَنَّثٌ ဟုခေါ်သည်။

ဥပမာ - اِمْرَأَةٌ ( အမျိုးသမီး) ၊ شَجَرَةٌ (သစ်ပင်) ၊ حَمَامَةٌ ( ခို )

مُؤَنَّثٌ သည် (၂)မျိုးရှိသည်။

(၁) مُؤَنَّثٌ قِيَاسِيٌّ　　　　(၂) مُؤَنَّثٌ سَمَاعِيٌّ

## مُؤَنَّثٌ قِيَاسِيٌّ အကြောင်း

သင်္ကေတ (သို့) အမှတ်အသားဖြင့် مُؤَنَّثٌ ဖြစ်ကြောင်း ဖော်ပြပေးသော اِسْمٌ ကို مُؤَنَّثٌ قِيَاسِيٌّ ဟုခေါ်သည်။ ၎င်းမှာ (၂) မျိုးရှိသည်။

(၁) مُؤَنَّثٌ لَفْظِيٌّ　　　　(၂) مُؤَنَّثٌ مَعْنَوِيٌّ

၁။ مُؤَنَّثٌ ၏ ထင်ရှားသောအမှတ်အသား ပါရှိသည့် اِسْمٌ တိုင်းကို مُؤَنَّثٌ لَفْظِيٌّ ဟုခေါ်သည်။ مُؤَنَّثٌ ၏ ထင်ရှားသောအမှတ်အသားများမှာ (၃) ခု ရှိပါသည်။

(၁) تَاءٌ مَرْبُوْطَةٌ ( ة ) ရှိခြင်း။

ဥပမာ - فَاطِمَةُ (ဖွာသွေမဟ်)၊ رَايَةٌ (အလံ) ၊ يَمَامَةٌ (ချိုးငှက်)

(၂) أَلِفٌ مَقْصُوْرَةٌ ရှိခြင်း။

ဥပမာ - سَلْمٰى ( စလ်မာ)၊ كُمَّثْرٰى (သစ်တော်သီး)၊ لَيْلٰى (လိုင်လာ)

(၃) أَلِفٌ مَمْدُوْدَةٌ (أَلِفٌ အရှည်) ရှိခြင်း။

ဥပမာ - أَسْمَاءُ (အတ်စ်မာ)၊ زُلَيْخَاءُ (ဇူလိုင်ခါ)၊ صَفْرَاءُ (အဝါရောင်)

၂။ مُـؤَنَّـثٌ ၏ ထင်ရှားသောအမှတ်အသားများ မပါရှိဘဲ အဓိပ္ပါယ်အားဖြင့် مُـؤَنَّـثٌ ဖြစ်ကြောင်း သိရှိရသော اِسْمٌ တိုင်းကို مُؤَنَّثٌ مَعْنَوِيٌّ ဟုခေါ်သည်။ مُؤَنَّثٌ مَعْنَوِيٌّ သည် ပုံစံ (၄) မျိုးဖြင့်လာရှိမည်။

(၁) အမျိုးသမီးများ၏အမည်များ။

ဥပမာ- سُعَادُ ـ زينب ـ مريم

(၂) အမျိုးသမီးများအတွက်သာ အသုံးပြုသော اِسْمٌ များ။

ဥပမာ- الْأُخْتُ ـ الأُمُّ ـ اَلْبِنْتُ

(၃) နိုင်ငံ၊ မြို့၊ ရွာ၊ မျိုးနွယ်စုတို့၏အမည်များ။

ဥပမာ - قُرَيْشٌ ـ الهِنْدُ ـ مَا نْدَلِے ـ يَانْغُوْنْ

(၄) ခန္ဓာကိုယ်တွင် စုံရှိသောအစိတ်အပိုင်းများ။

ဥပမာ - رِجْلٌ ـ عَيْنٌ ـ يَدٌ

မှတ်ချက် ။ ။ အစုံရှိခြင်းဆိုသောစကားသည် ပုံသေဥပဒေ မဟုတ်ပါ။ အဘယ့်ကြောင့်ဆိုသော် خَدٌّ ـ صُدْغٌ ـ حَاجِبٌ ـ مِرْفَقٌ ـ တို့သည် အစုံလိုက် ဖြစ်သော်လည်း مُذَكَّرٌ အဖြစ် အသုံးပြုသည်။

## مُؤَنَّثٌ سَمَاعِيٌّ အကြောင်း

အရေဗီစကား ပြောဆိုသူများ၏ အပြောအဆို အသုံးအနှုန်းအပေါ် အခြေခံ၍ သိရှိရသော مُـؤَنَّـثٌ ကို مُـؤَنَّـثٌ سَـمَـاعِيٌّ ဟုခေါ်သည်။ مُـؤَنَّـثٌ سَـمَـاعِيٌّ အတွက်သီးသန့်သတ်မှတ်ထားသော (ဥပဒေ)မရှိပါ။ အောက်တွင် مُؤَنَّثٌ سَمَاعِيٌّ ဖြစ်သော اِسْمٌ အချို့ကို ရေးသားဖော်ပြလိုက်သည်။

| | | |
|---|---|---|
| نَارٌ ( မီး) | ضَبْعٌ (သားပိုက်ကောင်) | كَأْسٌ( ဖန်ခွက်) |
| نَعْلٌ (ဖိနပ်) | أَرْنَبٌ (ယုန်) | عَصَا (တုတ်ချောင်း) |
| بِئْرٌ (ရေတွင်း) | شَمْسٌ (နေ) | رِيْحٌ (လေ) |
| دَارٌ (အိမ်) | إِصْبَعٌ (လက်ချောင်း) | حَرْبٌ (စစ်ပွဲ) |
| يَمِيْنٌ (ညာဘက်) | أَرْضٌ (မြေကြီး) | سِنٌّ (သွား) |
| جَهَنَّمُ (ဂျဟန္နမ်) | شَمالٌ (မြောက်ဘက်) | رَحًى (ကြိတ်ဆုံ) |
| سقرٌ (ဂျဟန္နမ်) | فأسٌ (ပုဆိန်) | فُلْكٌ (သင်္ဘော) |
| رَحِمٌ (သားအိမ်) | أَفعًى (မြွေပွေး) | قَوْسٌ (လေးကိုင်း) |
| | عَرُوْضٌ (ကဗျာဖွဲ့နည်း) | جَحِيْمٌ (ဂျဟန္နမ်) |




## လေ့ကျင့်ခန်း

(၁) လိင်ကို အခြေခံ၍ اِسْمٌ ဘယ်နှစ်မျိုးရှိသနည်း။

(၂) مُذَكَّرٌ ဆိုသည်မှာ ဘယ်အရာကို ခေါ်ဆိုသနည်း။

(၃) مُؤَنَّثٌ ဆိုသည်မှာ ဘယ်အရာကို ခေါ်ဆိုသနည်း။

(၄) مُؤَنَّثٌ لَفْظِيٌّ ၏ ထင်ရှားသော အမှတ်သား (၃)ခုကို ဥပမာနှင့်တကွဖော်ပြပါ။

(၅) مُؤَنَّثٌ مَعْنَوِيٌّ ၏ ပုံစံ (၄) မျိုးကို ဥပမာနှင့်တကွရေးပြပါ။

(၆) مُؤَنَّثٌ سَمَاعِيٌّ ဆိုသည်မှာ ဘယ်အရာကို ခေါ်ဆိုသနည်း။

(၇) အောက်ပါစကားလုံးများကို مُذَكَّرٌ နှင့် مُؤَنَّثٌ ခွဲခြားပြပါ။

| | | | | |
|---|---|---|---|---|
| فصل | قلنسوة | صفراء | حسنى | سوداء |
| أذن | أم | فأس | عين | مريم |
| حرب | سلمى | خديجة | شمس | أخت |
| رِجْل | حصان | نعجة | يانغون | قريش |

(၈) အောက်ပါစာပိုဒ်မှ مُذَكَّرٌ နှင့် مُؤَنَّثٌ တို့ကိုကောက်နုတ်ပြပါ။

أولاد النبي ﷺ سبعة : القاسم ، وزينب ، ورقية ، وفاطمة ، وأم كلثوم ، وعبدالله ، وإبراهيم وكلهم من خديجة إلا إبراهيم ، فمن مارية القبطية.

**ဆရာလမ်းညွှန်**

ဆရာသည် ကျောင်းသားများအား ဤကဏ္ဍနှင့်ပတ်သက်ပြီး ဥပမာများပေး၍ ရှင်းပြပါ။ ပြုလုပ်နည်းများကိုလည်း အထူးရှင်းပြပါ။ ကွားခြားချက်များကိုလည်း စနစ်တကျ ကျက်မှတ်စေပါ။

## သင်ခန်းစာ (၇)

### ကိန်းဂဏန်းကို အခြေခံ၍ اِسْمٌ ၏အမျိုးကွဲပုံ အကြောင်း

ကိန်းဂဏန်းကို အခြေခံ၍ اِسْمٌ သည် (၃) မျိုးရှိသည်။

(၁) مُفْرَدٌ		(၂) مُثَنّٰى		(၃) جَمْعٌ

(၁) တစ်ခု ၊ တစ်ကောင် ၊ တစ်ယောက်ကို ဖော်ပြသော اِسْمٌ တိုင်းကို مُفْرَدٌ ဟုခေါ်သည်။

ဥပမာ- كِتَابٌ (စာအုပ်တစ်အုပ်)		بَقَرَةٌ (နွားမတစ်ကောင်)

طَالِبٌ (ကျောင်းသားတစ်ယောက်)		طَاوِلَةٌ (စားပွဲခုံရှည်တစ်ခု)

(၂) နှစ်ခု ၊ နှစ်ကောင် ၊ နှစ်ယောက်ကို ဖော်ပြသော اِسْمٌ တိုင်းကို مُثَنّٰى ဟုခေါ်သည်။ اِسْمٌ တစ်ခုကို مُثَنّٰى ပြုလုပ်ရန်အတွက် اِسْمٌ ၏နောက်ဆုံးတွင် اَلِفٌ و نُوْنٌ (သို့) يَاءٌ و نُوْنٌ အပိုထည့်ပေးရမည်။

ဥပမာ- كِتَابَانِ (စာအုပ်နှစ်အုပ်)		كِتَابَيْنِ (စာအုပ်နှစ်အုပ်)

طَالِبَانِ (ကျောင်းသားနှစ်ယောက်)		طَالِبَيْنِ (ကျောင်းသားနှစ်ယောက်)

بَقَرَانِ (နွားနှစ်ကောင်)		بَقَرَيْنِ (နွားနှစ်ကောင်)

(၃) အများကိန်းကိုဖော်ပြသော اِسْمٌ တိုင်းကို جَمْعٌ ဟုခေါ်သည်။

ဥပမာ- كُتُبٌ (စာအုပ်များ)		طُلَّابٌ (ကျောင်းသားများ)

مُسْلِمُوْنَ (မွစ်လင်မ်များ)		جِهَاتٌ (အရပ်မျက်နှာများ)

جَمْعٌပြုလုပ်ရာတွင် مفرد ပုံစံ ပျက်ခြင်း/မပျက်ခြင်းကိုအခြေခံ၍ جمع သည် (၃) မျိုးရှိသည်။

(၁) جَمْعُ الْمُذَّكَرِ السَّالِمُ

(၂) جَمْعُ الْمُؤَنَّثِ السَّالِمُ

(၃) اَلْجَمْعُ الْمُكَسَّرُ

၁။ وَاوٌ و نُوْنٌ (သို့) يَاءٌ و نُوْنٌ အပိုထည့်၍ ပြုလုပ်ထားသည် جَمْعٌ တိုင်းကို جَمْعُ الْمُذَّكَرِ السَّالِمُ ဟုခေါ်သည်။

ဥပမာ- مُسْلِمٌ - مُسْلِمُوْنَ = مُسْلِمِيْنَ (မွစ်လင်မ်များ)

مُؤْمِنٌ - مُؤْمِنُوْنَ = مُؤْمِنِيْنَ (မိုအ်မင်န်များ)

၂။ اَلِفٌ وتَاءٌ အပိုထည့်၍ ပြုလုပ်ထားသော جَمْعٌ တိုင်းကို جَـمْـعُ الْمُؤَنَّثِ السَّالِمُ ဟုခေါ်သည်။ ဤ جَمْعٌ သည် မသဘာဝရှိသော اِسْمٌ များနှင့်သာ သက်ဆိုင်မည်။

ဥပမာ- مُسْلِمَةٌ - مُسْلِمَاتٌ (မွတ်စလင်မ်အမျိုးသမီးများ)

طَالِبَةٌ - طَالِبَاتٌ (ကျောင်းသူမများ)

صَالِحَةٌ - صَالِحَاتٌ (အမျိုးသမီးကောင်းများ)

၃။ مُفْرَدٌ ၏မူရင်းပုံစံပြောင်းသွားသော جَمْعٌ ကို اَلْجَمْعُ الْمُكَسَّرُ ဟုခေါ်သည်။

ဥပမာ- رَجُلٌ - رِجَالٌ (ယောကျ်ားများ) كِتَابٌ - كُتُبٌ (စာအုပ်များ)




## လေ့ကျင့်ခန်း

(၁) ကိန်းဂဏန်းကို အခြေခံ၍ اِسْمٌ ဘယ်နှစ်မျိုးရှိသနည်း၊၄င်းတို့ကိုဖော်ပြပါ။

(၂) مُفْرَدٌ ဆိုသည်မှာ အဘယ်နည်း။ဥပမာ (၃)ခု နှင့်တကွဖော်ပြပါ။

(၃) مثنى ဆိုသည်မှာ အဘယ်နည်း။ဥပမာ (၃)ခု နှင့်တကွဖော်ပြပါ။

(၄) جمع ဘယ်နှစ်မျိုးရှိသနည်း။၄င်းတို့ကိုဖော်ပြပါ။

(၅) အောက်ပါစကားလုံးများကို مفرد - مثنى - جمع ခွဲခြားပြပါ။

طالبات - مسلمِين - قلمَين - مدرستان - رجال - كتابان - مكتبة - رجل - طلاب

فانوسان - دوامة - نعجتَين - ساعتان - قلنسوة - طلاب - مسجدَين - بيت - أصنام

(၆)အောက်ပါ جمع များကို အမျိုးအစားခွဲခြားပြပါ။

أوراق - أبواب - مشاركون - مسافرات - كتب - رجال - صالحات

(၇) အောက်ပါစကားလုံးများကို مثنى ပြုလုပ်ပေးပါ။

أسد - بسلة - غلاف - ممسحة - جاموس - قلنسوة - قلم

(၈) အောက်ပါစကားလုံးများကို جمع المذكر السالم ပြုလုပ်ပေးပါ။

مؤمن - مهندس - مسافر - كافر - مسلم

(၉) အောက်ပါစကားလုံးများကို جمع المؤنث السالم ပြုလုပ်ပေးပါ။

فاطمة - كافرة - كاتبة - طالبة - مسلمة

## သင်ခန်းစာ (၈)

## مُرَكَّبٌ (စကားစု) အကြောင်း

(၂)လုံး (သို့) (၂)လုံးထက်များသော စကားလုံးများဖြင့် ပေါင်းစပ်ထားသော စကားစုကို مُرَكَّبٌ ဟုခေါ်သည်။

ဥပမာ။ التِّلْمِيْذُ يَذْهَبُ = ကျောင်းသား သွားနေသည်။

إِبْرَاهِيْمُ يَكْسِرُ الْأَصْنَامَ = အစ်ဗ်ရာဟီးမ်သည် ရုပ်ထုများကို ရိုက်ချိုးနေသည်။

الْبَيْتُ النَّظِيْفُ = သန့်ရှင်းသောအိမ်သည်၊

اَلْقَلَمُ الَّذِيْ = အကြင်ကလောင်သည်၊

### مُرَكَّبٌ (စကားစု) ၏ အမျိုးအစားများ

مُرَكَّبٌ သည် (၂)မျိုးရှိသည်။

(၁) مُرَكَّبٌ نَاقِصٌ (၂) مُرَكّبٌ تَامٌّ

(၁) ဆိုလိုသည့်အဓိပ္ပါယ်မရောက်သောစကားစုကို مُرَكَّبٌ نَاقِصٌ ဟုခေါ်သည်။

ဥပမာ- إِنَّ زَيْدًا = မုချ ဇိုင်းဒ်သည်၊

الْبُسْتَانُ الْجَمِيْلُ = လှပသောဥယျာဉ်သည်၊

بَيْتُ طَالِبٍ = ကျောင်းသား၏ အိမ်သည်၊

(၂)ဆိုလိုသည့်အဓိပ္ပါယ်ကိုရောက်အောင် စနစ်တကျဖွဲ့စည်းထားသောစကားစုကို مُرَكّبٌ تَامٌّဟုခေါ်သည်။ ၎င်းကို جُمْلَةٌ (သို့) كَلَامٌ ဟုလည်းခေါ်ဆိုသေးသည်။

ဥပမာ- التِّلْمِيْذُ مُجْتَهِدٌ = ကျောင်းသားသည် ကြိုးစားသူဖြစ်သည်။

المَاءُ بَارِدٌ = ရေသည် အေးသည်။

كِتَابُ زَيْدٍ عَلى السَّرِيْرِ = ဇိုက်ဒ် ၏ စာအုပ်သည် ကုတင်ပေါ်တွင်ရှိသည်။

اَلْمَدْرَسَةُ الْجَمِيْلَةُ أَمَامَ الْمَسْجِدِ = လှပသောကျောင်းသည်ဗလီ၏ရှေ့တွင်ရှိသည်။

### လေ့ကျင့်ခန်း

(၁) مركب ဆိုသည်မှာ ဘယ်အရာကို ခေါ်ဆိုသနည်း။

(၂) مركب ၏ အမျိုးအစားများကို ဖွင့်ဆိုချက်များနှင့်တကွ ဖော်ပြပါ။

(၃) مركب تام နှင့် مركب ناقص တို့၏ ဥပမာ (၅)ခုစီ ရေးပြပါ။

**ဆရာလမ်းညွှန်**

သင်ခန်းစာပါ إضافة နှင့်ပက်သက်သော ဥပဒေများကို ဥပမာများများပေးကာ ရှင်းပြပေးပါ။ထိုသို့ ရှင်းပြရာတွင် သင်ပုန်းကို အသုံးပြုပါ။ကျောင်းသားများသည် သင်ခန်းစာကို ကျေကျေညက်ညက် နားလည်သည်ဟု ယုံကြည်ရမှသာ လေ့ကျင့်ခန်းများပြုလုပ်ခိုင်းပါ။

## သင်ခန်းစာ (၉)

## مُرَكَّبٌ نَاقِصٌ - အကြောင်း

مُرَكَّبٌ نَاقِصٌ ၏အမျိုးအစား များစွာရှိသည်။အသုံးများသော အမျိုးအစား (၂)ခုမှာ ……

(၁) مُرَكَّبٌ إِضَافِيٌّ (၂) مُرَكَّبٌ تَوْصِيْفِيٌّ တို့ဖြစ်သည်။

## (၁) مُرَكَّبٌ إِضَافِيٌّ (ပိုင်ဆိုင်မှုပြ စကားစု) အကြောင်း

(၁) ပိုင်ဆိုင်မှု အဓိပ္ပါယ်ရောက်အောင် اِسْمٌ နှစ်ခုကို စနစ်တကျ စီစဉ်ပေါင်းစပ်ထားပါက ယင်းပေါင်းစပ်မှုမျိုးကို إِضَافَةٌ လုပ်ခြင်းဟုခေါ်သည်။ ထိုပေါင်းစပ်ထားသော စကားစုကို مُرَكَّبٌ إِضَافِيٌّ ခေါ်သည်။

| | | |
|---|---|---|
| ဥပမာ- | كِتَابُ سَعِيْدٍ | (စအီးဒ် ၏ စာအုပ်) |
| | بَيْتُ خَالِدٍ | (ခါလစ်ဒ် ၏ အိမ်) |
| | بَابُ الْمَدْرَسَةِ | ( ကျောင်း ၏ တံခါး) |

مُرَكَّبٌ إِضَافِيٌّ သည် اِسْمٌ နှစ်ခုဖြင့်ပေါင်းစပ်ထားသည်ဖြစ်ရာ ပထမ اِسْمٌ ကို مُضَافٌ ဟုခေါ်ဆိုပြီး ဒုတိယ اِسْمٌ ကို مُضَافٌ إِلَيْهِ ဟုခေါ်ဆိုပေသည်။

ဥပမာ- كِتَابُ سَعِيْدٍ




မှတ်သားရန်

(၁) مُضَافٌ နှင့် مُضَافٌ إِلَيْهِ နှစ်ခုလုံးသည် اِسْمٌ ဖြစ်မည်။

(၂) များသောအားဖြင့် مُضَافٌ သည် نكرة ဖြစ်ပြီး၊ مضاف إليه သည် معرفة ဖြစ်မည်။ တစ်ခါတရံ

مضاف إليه သည် نكرة အဖြစ် လာနိုင်သည်။

ဥပမာ- كِتَابُ زَيْدٍ (ဇိုက်ဒ် ၏ စာအုပ်)

كِتَابُ رَجُلٍ ( အမျိုးသား ၏ စာအုပ်)

(၃) مُضَافٌ တွင် (الْ) နှင့် تَنْوِيْنٌ မလာရှိပါ။ مُضَافٌ إِلَيْه တွင် နှစ်ခုလုံး လာရှိနိုင်သည်။

ဥပမာ- سَاعَةُ مُدِيْرٍ سَاعَةُ الْمُدِيْرِ

(၄) مُضَافٌ إِلَيْه သည် အမြဲ مَجْرُوْرٌ ( ـِـ ) ဖြစ်မည်။

(၅) مُضَافٌ သည် تثنية (သို့) جمع المذكر السالم ဖြစ်ပါက إِضَافَةٌ ပြုလုပ်သည့်အခါ نُوْنٌ ပြုတ်သွားမည်။

ဥပမာ- كِتَابَا زَيْدٍ كِتَابَانِ (ဇိုက်ဒ် ၏ စာအုပ်နှစ်အုပ်)

مُدَرِّسُوْ الْمَدْرَسَةِ مُدَرِّسُوْنَ (ကျောင်း ၏ ဆရာများ)

## လေ့ကျင့်ခန်း

(၁) إضافة ဆိုသည်မှာ ဘယ်အရာကိုခေါ်ဆိုသနည်း။

(၂) مركب إضافي ဆိုသည်မှာ ဘယ်အရာကိုခေါ်ဆိုသနည်း။

(၃) အောက်ပါ စကားစုများကို إعراب တပ်၍ မြန်မာဘာသာသို့ပြန်ဆိုပါ။

باب المسجد فرس الطالب سيارة المدرسة قلنسوة زيد بيت الأستاذ

(၄) အောက်ပါစကားစုများကို အရဗီဘာသာသို့ပြန်ဆို၍ إعراب တပ်ပေးပါ။

ကျောင်း၏တံခါး ဗလီ၏အမောမ် စာသင်ခန်း ကျောင်းသား၏အိမ်

ဟာမိဒ်၏ခဲတံ ကျောင်း၏ခေါင်းလောင်း ဗလီ၏စာအုပ်များ

(၅) အောက်ပါ စကားလုံးများဖြင့် إضافة ပြုလုပ်၍ မြန်မာဘာသာသို့ပြန်ဆိုပါ။

حامد قلنسوة الطالب قلم باب البيت

المدير سيارة الرجل دواة المدرسة جرس

(၆)အောက်ပါစကားလုံးများကို إضافة ပြုလုပ်ပေး၍ إعراب တပ်ပေးပါ။ ၎င်းနောက် မြန်မာဘာသာသို့ပြန်ဆိုပါ။

طاولتان ـ حامد قلنسوتان ـ الطالب رجلان ـ المدرسة

قائلون ـ الحق بائعون ـ الأصنام مسافرون ـ المدينة

فلاحون ـ القرية مهندسون ـ المسجد عينان ـ القط

**ဆရာလမ်းညွှန်**

သင်ခန်းစာပါ مركب توصيفي နှင့်ပတ်သက်သော ဥပဒေများကို ဥပမာများများပေးကာ ရှင်းပြပေးပါ။ထိုသို့ ရှင်းပြရာတွင် သင်ပုန်းကို အသုံးပြုပါ။ကျောင်းသားများသည် သင်ခန်းစာကို ကျေကျေညက်ညက် နားလည်သည်ဟု ယုံကြည်ရမှသာ လေ့ကျင့်ခန်းများပြုလုပ်ခိုင်းပါ။

## (၂) مُرَكَّبٌ تَوْصِيْفِيٌّ (နာမ်ကိုအထူးပြုသော စကားစု) အကြောင်း

اِسْمٌ တစ်ခုခုကို صِفَةٌ (နာမဝိသေသန) တစ်ခုခုဖြင့် အထူးပြုထားသော စကားစုအား مُرَكَّبٌ تَوْصِيْفِيٌّ ဟုခေါ်သည်။

ဥပမာ- رَجُلٌ جَمِيلٌ (လှပသော အမျိုးသား)

قَلَنْسُوَةٌ كَبِيْرَةٌ (ကြီးသော ဦးထုပ်)

المَدْرَسَةُ النَّظِيْفَةُ (သန့်ရှင်းသော ကျောင်းသည်)

مُرَكَّبٌ تَوْصِيْفِيٌّ သည် اسم (နာမ်)နှင့် صفة (နာမဝိသေသန)တို့ဖြင့်ပေါင်းစပ်ထားသည်။ ပထမအစိတ်အပိုင်းကို مَوْصُوْفٌ ဟုခေါ်ပြီး ဒုတိယ အစိတ်အပိုင်းကို صِفَةٌ ဟုခေါ်သည်။

ဥပမာ။ رَجُلٌ جَمِيْلٌ

مَوْصُوْفٌ + صِفَةٌ

مَوْصُوْفٌ နှင့် صِفَةٌ တို့သည် အောက်ဖော်ပြပါ အချက်များတွင် အချင်းချင်း ကိုက်ညီမှုရှိရမည်။

(၁) **إعرابٌ** တွင် ကိုက်ညီမှုရှိခြင်း။

ဥပမာ။ رَجُلٌ جَمِيْلٌ (လှပသော အမျိုးသား)

رَجُلاً جَمِيْلاً (လှပသော အမျိုးသားကို)

إلى رَجُلٍ جَمِيْلٍ (လှပသော အမျိုးသား ဆီသို့)

(၂) **معرفة** နှင့် **نكرة** ဖြစ်ရာတွင် ကိုက်ညီမှုရှိခြင်း။

ဥပမာ။ رَجُلٌ جَمِيْلٌ (လှပသော အမျိုးသား)

الرَجُلُ الجَمِيْلُ (လှပသော အမျိုးသားသည်)

(၃) مذكر နှင့် مؤنث ဖြစ်ရာတွင် ကိုက်ညီမှုရှိခြင်း။

ဥပမာ- رَجُلٌ جَمِيْلٌ (လှပသော အမျိုးသား)

اِمْرَأَةٌ جَمِيْلَةٌ (လှပသော အမျိုးသမီး)

(၄) مفرد ၊ مثنى နှင့် جمع ဖြစ်ရာတွင် ကိုက်ညီမှုရှိခြင်း။

ဥပမာ- طَالِبٌ مُجْتَهِدٌ (ကြိုးစားသော ကျောင်းသား)

طَالِبَانِ مُجْتَهِدَانِ (ကြိုးစားသော ကျောင်းသားနှစ်ဦး)

طُلَّابٌ مُجْتَهِدُوْنَ (ကြိုးစားသော ကျောင်းသားများ)

မှတ်ချက်။ ။ موصوف သည် جمع غير العاقل ၏ ဖြစ်ပါက صفة သည် များသောအားဖြင့် مفرد مؤنث လာလေ့ရှိသည်။ ဥပမာ- الشجرات الجميلة (လှပသော သစ်ပင်များသည်)

موصوف (جمع غير العاقل) صفة (مفرد مؤنث)



## လေ့ကျင့်ခန်း

(၁) مركب توصيفي ဆိုသည်မှာ ဘယ်အရာကို ခေါ်ဆိုသနည်း။

(၂) موصوف နှင့် صفة သည် မည်သည့်အချက်များတွင် ကိုက်ညီမှုရှိရမည်နည်း။

(၃) အောက်ပါ ကွက်လပ်များတွင် သင့်တော်သော صفة များကိုဖြည့်ပေးပါ။

ممسحة.....    الحصان.....    محبرتان.....    الباب.....

الحدأة.....    الدين.....    النشافة.....    التفاح.....

المدرسون.....    كتب.....    طلاب.....    الفرسان.....

المسافرون.....    المسجدان.....    الساعة.....    القلنسوتان.....

(၄) အောက်ပါကွက်လပ်များတွင် သင့်တော်သော موصوف များကိုထည့်ပေးပါ။

..... كبير    ..... الصغيرة    ..... السريع    ..... الجميلتان

.....القيم    ..... الطويلة    ..... حلو    ..... الكبيرة

.....الجديدة    ..... مجتهدون    ..... الكثيرون    .....غالية

(၅) အောက်ပါ စကားစုများကို အရဗီဘာသာသို့ပြန်ဆိုပါ။

ကြိုးစားသောကျောင်းသားများ    လှပသောသစ်ပင်များ    သန့်ရှင်းသောကျောင်း

စာအုပ်အသစ်များ    ဈေးကြီးသောနာရီ    ချိုသောပန်းသီးတစ်လုံး

လျင်မြန်သောမြင်းနှစ်ကောင်　　လှပသောဦးထုပ်များ　　များပြားသောပေတံများ

ပိတ်ထားသောတံခါး　　ပိန်သောနွားနှစ်ကောင်　　ဝသောခိုနှစ်ကောင်

(၆)အောက်ပါ စကားစုများကို အမှား အမှန် ပြင်ပေးပါ။

الباب الكبيرة　　رجل الطويل　　قلنسوة الصغيرة　　الطلاب المجتهد

ساعة الغاليتان　　الحصان سريع　　المدرسان الجديد　　مسجد الصغيرة

النشافتان جميلة　　البقر نحيف　　المسطرة الكبيرتان　　العلبة الصغير

**ဆရာလမ်းညွှန်**

ဤကဏ္ဍသည် ကျောင်းသားများအား အရဗီ عبـــــــــارات များကို اجــــــــراء လုပ်ပေးရာတွင် အရေးပါလှသော ကဏ္ဍဖြစ်သည်။ ထို့ကြောင့်စနစ်တကျ လက်တွေ့ဥပမာများနှင့် ရှင်းပြပေးရန်လိုအပ်သည်။

## သင်ခန်းစာ(၁၀)

## مُرَكَّبٌ تَامٌ အကြောင်း

ဆိုလိုသည့်အဓိပ္ပါယ်ကိုရောက်အောင် စနစ်တကျဖွဲ့စည်းထားသောစကားစုကို مُـــرَكَّـــبٌ تَـــامٌّ ဟုခေါ်သည်။ ၎င်းကို جُمْلَةٌ (သို့) كَلاَمٌ ဟုလည်းခေါ်ဆိုသေးသည်။

جملة (ဝါကျ) သည် အခြေခံအားဖြင့် (၂) မျိုးရှိသည်။

(၁) جملة اسمية (နာမ်ဝါကျ)　　(၂) جملة فعلية (ကြိယာဝါကျ)

## جُمْلَةٌ اِسْمِيَّةٌ -နာမ်ဝါကျအကြောင်း

၁။ اسم ဖြင့် အစပြုထားသော جملة ကို جملة اسمية (နာမ်ဝါကျ) ဟုခေါ်သည်။

ဥပမာ - اَللّٰهُ وَاحِدٌ ـ اَلْمَدْرَسَةُ نَظِيْفَةٌ ـ اَلطُّلاَّبُ نَاجِحُوْنَ

جملة اسمية၏ ပထမပိုင်းအား مُبْتَدَأٌ ဟုခေါ်ပြီး၊ ဒုတိယပိုင်းအား خَبَرٌ ဟုခေါ်သည်။

اَللّٰهُ → مبتدأ　　وَاحِدٌ → خبر

မှတ်ချက်။　။ مبتدأ ကို مُسْنَدٌ إِلَيْهِ ဟုခေါ်ပြီး၊ خبر ကို مُسْنَدٌ ဟုလည်း ခေါ်ဆိုသည်။

**ကျက်မှတ်ရန်**

(၁) مبتدأ နှင့် خبر (၂) ခုလုံးသည် အမြဲ مرفوعဖြစ်မည်။

(၂) مبتدأနှင့် خبر တို့သည် مفرد ၊ مثنى ၊ جمعဖြစ်ခြင်းနှင့် مذكر ၊ مؤنث ဖြစ်ခြင်းတို့တွင် ကိုက်ညီမှုရှိရမည်။ ဥပမာ -

| | |
|---|---|
| الطالب مجتهد | الطالبة مجتهدة |
| الطالبان مجتهدان | الطالبتان مجتهدتان |
| الطلاب مجتهدون | الطالبات مجتهدات |

(၃) مبتدأ သည် معرفة ဖြစ်မည်။ သို့သော် အချို့သော ခြွင်းချက်များဖြင့် نكـــــــرة လည်း ဖြစ်နိုင်သည်။ ထိုခြွင်းချက်များအနက် အချို့မှာ……

(က) مبتدأ ၏ အလျင် حَرْفُ نَفْيٍ (အငြင်းပုဒ်) တစ်ခုခုရှိရမည်။

ဥပမာ - ما طَالِبٌ مُجْتَهِدًا (ကျောင်းသားသည် ကြိုးစားသူမဟုတ်ပါ။)

(ခ) مبتدأ ၏ အလျင် حَرْفُ اِسْتِفْهَامٍ (အမေးပုဒ်) တစ်ခုခုရှိရမည်။

ဥပမာ - هَلْ طَالِبٌ نَائِمٌ ؟ (ကျောင်းသားသည် အိပ်နေပါသလား၊)

(ဂ) نكرة တစ်ခုခုဘက်သို့ مضاف ဖြစ်ခြင်း။ ဥပမာ - قَلَمُ طَالِبٍ طَوِيْلٌ.

ဤသည် مضاف နှင့်إليه مضاف ပေါင်း၍ مبتدأဖြစ်သော ပုံစံလည်းဖြစ်သည်။

(ဃ) معرفة မဟုတ်သော موصوف နှင့် صفة ဖြစ်ခြင်း

ဥပမာ - طالب مُجْتَهِدٌ يَكْتُبُ (ကြိုးစားသောကျောင်းသားသည် ရေးနေသည်။)

ဤသည် موصوف နှင့် صفة ပေါင်း၍ مبتدأ ဖြစ်သောပုံစံလည်းဖြစ်သည်။

☆ خبر သည် များသောအားဖြင့် نـكـــــرة ဖြစ်မည်။ သို့သော် အချို့သော ခြွင်းချက်များကြောင့် တစ်ခါတရံ معرفة လည်း ဖြစ်နိုင်သည်။ ယင်းတို့မှာ ......

(က) خبرသည် عَلَمٌ ဖြစ်ခြင်း

ဥပမာ - أنا يوسف (ကျွန်တော် ယူစွတ်ဖ်ဖြစ်သည်။)

(ခ) مبتدأ နှင့် خبر ၏ ကြားတွင် ضَمِيْرُ الْفَصْلِ (ခြားနားပေးထားသော ضمير ) ရှိခြင်း။

ဥပမာ - اَلْوَلَدُ هُوَ الْقَائِمُ ( ကလေးသည် ထိုရပ်နေသောသူသာဖြစ်သည်။)

**မှတ်ချက်။** ။ ضــــميـــــرالــفــصــل ဆိုသည်မှာ مبتــدأ နှင့် خبـــــرကြားတွင်သာလာသော ضميرကိုခေါ်သည်။ ထို ضميرသည် ဝါကျတွင် توكيد (လေးနက်စေခြင်း) နှင့် اختصاص (သီးသန့်ပြုခြင်း) တို့အတွက် လာရှိသည်။

**خبر ၏အမျိုးအစားများ**

خبر ၏ အမျိုးအစား (၃)မျိုးရှိသည်။

(၁) مفرد ဖြစ်ခြင်း

ဥပမာ - .الطالب مجتهد

(၂) جملة ဖြစ်ခြင်း

خبرဖြစ်သော جملة သည် فعلية နှင့် اسمية နှစ်မျိုးလုံးဖြစ်နိုင်သည်။

جملةاسمية ၏ ဥပမာ - الطالبُ قَلَمُهُ طَوِيْلٌ

جملة فعلية ၏ ဥပမာ - .الطالبُ يَذْهَبُ إِلىٰ الْمَسْجِدِ

(၃) شِبْهُ الْجُمْلَةِ - ဖြစ်ခြင်း

شبــه الـجملة ဆိုသည်မှာ (၁) ظرف (အချိန်/နေရာပြပုဒ်) ၊ (၂) مــجرور စသည်တို့ကို ခေါ်ဆိုသည်။

ظرف ဖြစ်သော خبر ၏ ဥပမာ - .الطالبُ عِنْدَ الْمُدِيْرِ

مجرورဖြစ်သော خبر ၏ ဥပမာ - . الطالبُ على الكُرْسِيِّ

(သဒ္ဒါ) ပညာရှင်အများစုထံ၌ خبر သည် ظرف ဖြစ်ပါက ၎င်း၏ရှေ့တွင်استقرّ သို့မဟုတ် ثبت စသည့် فعل များရှိနေသည်ဟုမှတ်ယူရမည်။

ဥပမာ - زيد في الدار - ၎င်း၏မူရင်းမှာ زيد استقر في الدار ဖြစ်သည်။

| الدار | في | استقر | زيد |
|---|---|---|---|
| مجرور | جار | فعل محذوف | مبتدأ |



## جُمْلَةٌ فِعْلِيَّةٌ– ကြိယာဝါကျ အကြောင်း

၂။ فعل ဖြင့် အစပြုထားသော جملة ကို جملة فعلية (ကြိယာဝါကျ) ဟုခေါ်သည်။

ဥပမာ -

كَسَرَ (فعل) إبْرَاهِيْمُ (فاعل) الأَصْنَامَ (مفعول به) . (الفعل الماضي)

يَذْهَبُ الطُّلَّابُ إلَى الْمَدْرَسَةِ. (الفعل المضارع )

اُكْتُبْ التَّمَارِيْنَ.(فعل الأمر)

ضُرِبَ الْكَافِرُ . (الفعل المجهول)

فعل ရှိပါက فاعل ရှိရမည်။ فاعل သည် (၂) မျိုးရှိသည်။

(၁) فاعل ظاهر (ထင်ရှားသော فاعل ) ဥပမာ - . ذهب الطالب إلى المدرسة

(၂) فاعل مُضْمَرٌ (ضميرအဖြစ်လာသော فاعل ) ဥပမာ - الطالب ذهب إلى المدرسة.

الطالب (مبتدأ) ذهب (فعل + (هو) فاعل مضمر)

၁။ فاعل သည် ظاهر ဖြစ်ပါက فعل အား مفرد သာအသုံးပြုရမည်။ ထို့အတူ فعل နှင့် فاعل တို့သည် مذكر، مؤنث ဖြစ်ခြင်းတို့တွင် အချင်းချင်းကိုက်ညီမှုရှိရမည်။

| **مؤنث** ၏ ဥပမာ | **مذكر** ၏ ဥပမာ |
|---|---|
| ذهبت الطالبة إلى المدرسة . | ذهب الطالب إلى المدرسة. |
| ذهبت الطالبتان إلى المدرسة . | ذهب الطالبان إلى المدرسة . |
| ذهبت الطالبات إلى المدرسة . | ذهب الطلاب إلى المدرسة . |

မـذكر، مؤنث ၊ مـفرد، مثنى ، جمع တို့သည် فعل နှင့် فاعل သည် مضمر ဖြစ်ပါက فاعل ၂။ ဖြစ်ခြင်းတို့တွင် အချင်းချင်းကိုက်ညီမှုရှိရမည်။

ဥပမာ - . الطالب ذهب إلى المدرسة .     الطالبة ذهبت إلى المدرسة .

. الطالبان ذهبا إلى المدرسة     . الطالبتان ذهبتا إلى المدرسة

. الطلاب ذهبوا إلى المدرسة     . الطالبات ذهبن إلى المدرسة

မှတ်သားရန်

(၁) جملة فعلية သည် مفعول به + فاعل + فعل တို့ပေါင်း၍သော်လည်းကောင်း၊ فاعل + فعل တို့ ပေါင်း၍သော်လည်းကောင်းဖြစ်ပေါ်သည်။

(၂) فاعل သည် အမြဲ مرفوع ဖြစ်ပြီး مفعول به သည် အမြဲ منصوب ဖြစ်မည်။

(၃) فاعل နှင့် مفعول به နှစ်ခုလုံးသည် အမြဲ اسم သာဖြစ်မည်။

(၄) جملة فعلية တွင် ဦးစွာပထမ فعل ထို့နောက် فاعل အဆုံးတွင် مفعول به လာရှိမည်။

ဥပမာ -    كَسَرَ   إِبْرَاهِيْمُ   الأَصْنَامَ .

فعل   فاعل   مفعول به

(၅) فاعل သည် غيرعاقل၏ جمعဖြစ်ပါက فعلကို مؤنث مفردအသုံးပြုနိုင်သည်။

ဥပမာ - سَقَطَتْ الأَصْنَامُ (ရုပ်ထုများ ပြုတ်ကြသွားခဲ့သည်။)





## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများမှ جملة اسمية နှင့် جملة فعلية တို့ကို ခွဲပြပါ။

(၁) حفظ التلميذ الدرس. (၂) خلق اللّٰه الإنسان (၃) الشمس طالعة

(၄) الولد باسم (၅) الغرفة عريضة (၆) بُنِيَ الإسلامُ على خمس

(၇) قَدْ سَمِعَ اللّٰهُ (၈) لَعَلَّمَا قام زيد (၉) إن الدين عند اللّٰه الإسلام

(၁၀) كُتِبَ عليكم الصِّيَامُ (၁၁) يُؤْتِي الحِكْمَةَ مَنْ يَّشَاءُ (၁၂) قَدْ أَفْلَحَ الْمُؤْمِنُوْنَ

(၁၃) خُذِ الْكِتَابَ بِقُوَّةٍ (၁၄) لَا تَقْرَبُوْا الزِّنٰى (၁၅) قُلْ هُوَ اللّٰهُ أَحَدٌ

၂။ مركب تام ဟူသည်မှာ အဘယ်နည်း။

၃။ မည်သည့်စည်းကမ်းချက်များကြောင့် مبتدأ သည် نكرة ဖြစ်မည်နည်း။

၄။ အသင်တို့၏ သင်ခန်းစာများမှ جملة اسمية (၁၀) ခုနှင့် جملة فعلية (၁၀) ခုတို့ကို ထုတ်နုတ်ရေးသားပါ။

၅။ شبه الجملة ၏ အမျိုးအစားများကို ဥပမာနှင့်တကွရေးသားပါ။

၆။ အသင်တို့၏ သင်ခန်းစာများမှ خبر ၏ အမျိုးအစား (၃) ခုလုံးအတွက် ဥပမာ (၅)ခုစီ ရှာဖွေရေးသားပါ။

**ဆရာလမ်းညွှန်**

عبـــــــــارت ဖတ်ရာတွင် အရဗီစကားလုံးများ၏နောက်ဆုံးသရ ပြောင်းလဲခြင်း/မပြောင်းလဲခြင်းကိုနားလည်သဘောပေါက်ရန်အတွက် ဤကဏ္ဍသည်အလွန်ပင်အရေးပါလှသည်။ ထို့ကြောင့်ဆရာသည် ဤကဏ္ဍပါ အခြေခံဥပဒေများကို ဂရုတစိုက်ရှင်းပြပေးရန်အထူးလိုအပ်ပါသည်။

## သင်ခန်းစာ (၁၁)

## مُعْرَبٌ နှင့် مَبْنِيٌّ အကြောင်း

عامل ကြောင့်နောက်ဆုံးသရပြောင်းလဲခြင်း (သို့) မပြောင်းလဲခြင်းပေါ် အခြေခံ၍ اسم နှစ်မျိုးရှိသည်။

(၁) مُعْرَبٌ (၂) مَبْنِيٌّ

၁။ اسم တစ်ခု၏နောက်ဆုံးအက္ခရာရှိသရသည် عامـــل တစ်ခုခုကြောင့် ပြောင်းလဲပါက ထိုاسمကို مُعْرَبٌ ဟုခေါ်သည်။

ဥပမာ- ذهب حَامِدٌ إلى السوق. (ဟာမိဒ် ဈေးသို့ သွားခဲ့သည်။)

رأيت حامدًا في السوق . (ကျွန်တော်သည် ဟာမိဒ်ကို ဈေး၌ တွေ့မြင်ခဲ့သည်။)

ذهبتُ إلى حَامِدٍ. (ကျွန်တော်သည် ဟာမိဒ်ထံသို့ သွားခဲ့သည်။)

၂။ اســـــاတစ်ခု၏နောက်ဆုံးအက္ခရာရှိသရသည် عـــــامـــــل တစ်ခုခုဝင်ရောက်ခြင်းဖြင့်လည်း မပြောင်းလဲပါက ထို اسمကို مَبْنِيٌّ ဟုခေါ်သည်။

ဥပမာ - هُمْ هَؤُلَاءِ - إنَّ هَؤُلَاءِ - إلى هَؤُلَاءِ

## مُعْرَبٌ အကြောင်း

**إعراب** ပြောင်းလဲပုံသည် (၂) မျိုးရှိသည်။

(၁) **اَلظَّاهِرِيُّ** (ထင်ရှားစွာပြောင်းလဲခြင်း)

ဥပမာ- ذهب حَامِدٌ إلى السوق . (ဟာမိဒ် ဈေးသို့ သွားခဲ့သည်။)

رَأَيْتُ حامدًا في السوق . (ကျွန်တော်သည် ဟာမိဒ်ကို ဈေး၌ တွေ့မြင်ခဲ့သည်။)

ذهبتُ إلى حَامِدٍ . (ကျွန်တော်သည် ဟာမိဒ်ထံသို့ သွားခဲ့သည်။)

(၂) **اَلتَّقْدِيْرِيُّ** (ဖုံးကွယ်၍ပြောင်းလဲခြင်း)

ဥပမာ- ذَهَبَ مُوْسٰى إلَى السُّوْقِ (မူစာ ဈေးသို့သွားခဲ့သည်။)

رأيت مُوْسٰى في السوق . (ကျွန်တော်သည် မူစာကို ဈေး၌ တွေ့မြင်ခဲ့သည်။)

ذهبتُ إلى مُوْسٰى . (ကျွန်တော်သည် မူစာထံသို့ သွားခဲ့သည်။)

**الإِعْرَابُ الظَّاهِرِيُّ** သည် (၂) မျိုးရှိပြန်သည်။

(၁) الإعراب بالحركات (သရများဖြင့်ပြောင်းလဲခြင်း)

ဥပမာ- ذهب حَامِدٌ إلى السوق. (ဟာမိဒ် ဈေးသို့ သွားခဲ့သည်။)

رأيت حامدًا في السوق . (ကျွန်တော်သည် ဟာမိဒ်ကို ဈေး၌ တွေ့မြင်ခဲ့သည်။)

ذهبتُ إلى حَامِدٍ . (ကျွန်တော်သည် ဟာမိဒ်ထံသို့ သွားခဲ့သည်။)

(၂) الإعراب بالحروف (အက္ခရာများဖြင့်ပြောင်းလဲခြင်း)

ဥပမာ- ذهب المُسْلِمُوْنَ إلى المسجد (မွတ်စ်လင်မ်များသည် ဗလီသို့ သွားခဲ့ကြသည်။)

رأيتُ المُسْلِمِيْنَ في المسجد (ကျွန်တော်သည်မွတ်စ်လင်မ်များကိုဗလီ၌ တွေ့မြင်ခဲ့သည်။)

ذهبتُ إلى المُسْلِمِيْنَ . (ကျွန်တော်သည် မွတ်စ်လင်မ်များထံသို့ သွားခဲ့သည်။)

إعراب ၏ အမျိုးအစား (၄) မျိုးရှိပါသည်။

(၁) رَفْعٌ (၂) نَصْبٌ (၃) جَرٌّ (၄) جَزْمٌ

اسم တစ်ခုခုအား رفع၊ نصب၊ جر တို့၏အခြေအနေသို့ရောက်ရှိစေသောကလမ်တိုင်းကို عامل ဟုခေါ်သည်။ رفع ပေးခြင်းခံရသော اسم ကို مرفوع (သို့) حالة الرفع တွင်ရှိသည်ဟုဆိုမည်။ رفع သင်္ကေတရှိနေသော အက္ခရာကို مَحَلُّ الرَّفْعِ ဟု အသီးသီးခေါ်ဆိုမည်။

ဥပမာ - ذَهَبَ طَالِبٌ

عامل — ذَهَبَ ; طَالِبٌ — مرفوع / حالة الرفع ، محل الرفع

ဤနည်းအတိုင်း نصب၊ جر တို့တွင်လည်း မှတ်သားပါ။

ကျက်မှတ်ရန်

(၁) اسم တွင် رفع ၊ نصب နှင့် جر သာလာရှိမည်။ جزم မလာရှိပါ။

(၂) فعل တွင် رفع ၊ نصب နှင့် جزم သာလာရှိမည်။ جر မလာရှိပါ။

## مَبْنِيٌّ အကြောင်း

اسمတစ်ခု၏နောက်ဆုံးအက္ခရာရှိသရသည် عامل တစ်ခုခုဝင်ရောက်ခြင်းဖြင့်လည်း မပြောင်းလဲပါက ထို اسمကို مَبْنِيٌّ ဟုခေါ်သည်။

ဥပမာ- ذَهَبَ هٰؤُلَاءِ إلى المدرسةِ . (ဤသူများ ကျောင်းသို့ သွားခဲ့ကြသည်။)

رأيت هٰؤُلَاءِ في المدرسةِ . (ကျွန်တော်သည် ဤသူများကို ကျောင်းတွင် တွေ့မြင်ခဲ့သည်။)

ذهبت إلى هٰؤُلَاءِ . (ကျွန်တော်သည် ဤသူများထံသို့ သွားခဲ့သည်။)

မှတ်ချက်။ ။ ဖော်ပြပါ ဥပမာ(၃)ခုလုံးတွင် هؤلاء ၏ရှေ့၌ عامل များပြောင်းလဲနေသော်လည်း هؤلاء ရှိနောက်ဆုံးသရသည် ပြောင်းလဲခြင်းမရှိပါ။

**مَبْنِيٌّ ၏ အမျိုးအစားများမှာ……**

(၁) الضمائر (နာမ်စားများ) ဥပမာ- هو هما هم ....

(၂) أسماء الإشارة (အညွှန်းနာမ်စားများ) ဥပမာ- هذا هذه هؤلاء....

(၃) أسماء الموصول (ပြန်ညွှန်းနာမ်စားများ) ဥပမာ- الذي التي ....

(၄) أسماء الاستفهام (အမေးနာမ်စားများ)

ဥပမာ- مَا ـ مَنْ ـ مَتٰى ـ أَيَّانَ ـ أَيْنَ ـ أَنّٰى ـ كَمْ ـ كَيْفَ

**အသုံးပြုပုံများ**

ما (သက်မဲ့အတွက်အမေးပုဒ်) ما تُرِيْدُ ؟ (အသင်ဘာအလိုရှိပါသလဲ။)

من (သက်ရှိအတွက် အမေးပုဒ်) من أَنْتَ ؟ (အသင်ဘယ်သူလဲ။)

مَتىٰ (အချိန်ကိုမေးရန်) متَى جئتَ؟ (အသင်ဘယ်အချိန်လာခဲ့လဲ။)

أيان (မသိရသော(အချိန်ကိုမေးရန်) أَيَّانَ تَخْرُجُ؟ (အသင်ဘယ်အချိန်မှထွက်ခွာမှာလဲ။)

أين (နေရာကို မေးမြန်းရန်) أين تذهب ؟ (အသင်ဘယ်နေရာကို သွားမှာလဲ။)

أنّىٰ (အံ့ဩစွာနေရာကိုမေးရန်) أنّىٰ تَقِفُ؟ (အသင်ဘယ်နေရာမှာ ရပ်မှာလဲ။)

كَمْ (အရေအတွက်ကိုမေးရန်) كَمْ طالبًا في الفصل؟ (အတန်းထဲတွင် ကျောင်းသားဘယ်နှစ်ယောက်ရှိသလဲ။)

كَيْفَ (အခြေအနေကို မေးရန်) كَيفَ تَصِلُ؟ (အသင်ဘယ်လိုရောက်တာလဲ။)

(၅) **أسماء الشرط** (သတ်မှတ်ချက်ပြ နာမ်စားများ)

ဥပမာ- إنْ ـ ما ـ مَنْ ـ مَتىٰ ـ أين ـ أيّانَ ـ أنّىٰ

(၆) **أسماء الأفعال** (**فعل** ၏အဓိပ္ပါယ်ပေးသော **اسم** များ)

ဥပမာ- هَيْهَاتَ (ဝေးကွာခဲ့သည်။) آمِيْنَ (လက်ခံတော်မူပါ။)

صَهْ (တိတ်တိတ်နေပါ။) شَتَّانَ (ကွာခြားခဲ့သည်။)






## လေ့ကျင့်ခန်း

(၁) **عامل** ပေါ်အခြေခံ၍ **اسم** ၏ အမျိုးအစားမည်မျှရှိသနည်း။

(၂) **معرب**၏ ဖွင့်ဆိုချက်နှင့် ပြောင်းလဲပုံများကို ဥပမာနှင့်တကွ ဖော်ပြပါ။

(၃) **مبني** ၏ ဖွင့်ဆိုချက်နှင့် ပြောင်းလဲပုံများကို ဥပမာနှင့်တကွ ဖော်ပြပါ။

(၄) အောက်ပါစာလုံးများတွင် **معرب** နှင့် **مبني** တို့ကို ခွဲခြားပြပါ။

هـٰؤلاء ـ كَتَبَ ـ كَيْفَ ـ أَمْ ـ فَرِحَ ـ اَلَّذِيْ ـ مِنْ ـ يَقتُلُ ـ هِشَامٌ ـ لَعَلَّ ـ إِلٰى ـ أُولـٰئِكَ

ضَرَبَ ـ اللَّا تِي ـ مَا ـ بُسْتَانٌ ـ كَمْ ـ مَسْجِدٌ ـ إِنْ ـ مَتٰى ـ فِيْ ـ أَيَّانَ.

(၅) **مبني** ၏ အမျိုးအစားများကို ဥပမာနှင့် တကွ ဖော်ပြပါ။

(၆) သင်ခန်းစာ (၁၁) ၏ ဇယားအား အလွတ်ဆွဲပါ။

## သင်ခန်းစာ (၁၂)

## مرفوعات အကြောင်း

رفع (ခ) (ـُـ သို့ ـٌـ ) နှင့်ဖတ်ရသော اسم များကို مـرفـوعات ဟုခေါ်ဆိုသည်။ ၎င်းတို့မှာ (၈)မျိုးရှိသည်။

(၁) فاعل (၂) مفعولٌ مَالَمْ يُسَمَّ فَاعِلُه (၃) مبتدأ

(၄) خبر (၅) خبر"إنَّ" وأخواتها (၆) اسم "كان" وأخواتها

(၇) اسم "ما" و" لا " المشبهتين بليس (၈) خبر"لا" التي لنفي الجنس

## (၁) فاعل အကြောင်း

فاعل ဆိုသည်မှာ အလုပ်တစ်ခုခုကို ပြုလုပ်သော اسم အား ခေါ်ဆိုသည်။ ၎င်းفاعل ၏အလျှင် فعل معروف (အလုပ်လုပ်သူကိုသိရသော فعل) တစ်ခုရှိမည်။

ဥပမာ- جَاءَ زَيْدٌ - يَكْسِرُ إِبْرَاهِيْمُ الْأَصْنَامَ .

جَاءَ → فعل ، زَيْدٌ → فاعل (مرفوع)

يَكْسِرُ → فعل ، إِبْرَاهِيْمُ → فاعل (مرفوع) ، الْأَصْنَامَ → مفعول به

## فاعل ၏ အမျိုးအစားများ

ပေါ်လွင်ထင်ရှားခြင်း၊ မထင်ရှားခြင်းပေါ် အခြေခံ၍ فاعل သည် (၂)မျိုးရှိသည်။

(၁) فاعلٌ ظاهرٌ (ထင်ရှားသောကတ္တား)

ဥပမာ - ذَهَبَ طَالِبٌ إِلَى الْمَدْرَسَةِ

ذَهَبَ طَالِبٌ တွင် طالبٌ သည် فاعل ظاهر ဖြစ်သည်။

(၂) فاعلٌ مُضْمَرٌ (မထင်ရှားသော ကတ္တား)

ဥပမာ - طَالِبٌ ذَهَبَ إِلَى الْمَدْرَسَةِ

ذهب အတွင်းရှိ هو သည်مضمر فاعل ဖြစ်သည်။

မှတ်သားရန်။။ ။ فاعل ဖြစ်သော ضمير သည် (၂)မျိုးရှိသည်။

(က) ضمير بَارِزٌ (ပေါ်လွင်ထင်ရှားသော နာမ်စား)

ဥပမာ - ضَرَبْتُ كَلْبًا (ကျွန်တော်သည် ခွေးတစ်ကောင်ကို ရိုက်ခဲ့သည်။)

ضربت အတွင်းရှိ "أنا" ဟူသော ضمير သည် تُ အဖြစ်ထင်ရှားလျှက်ရှိသည်။

(ခ) ضمير مستتر (ဖုံးကွယ်နေသော နာမ်စား)

ဥပမာ - ضَرَبَ كَلْبًا (ထိုသူခွေးတစ်ကောင်ကို ရိုက်ခဲ့သည်။)

ضرب အတွင်းရှိ هو (ضمير) သည် ဖုံးကွယ်နေသည်။

## فاعل နှင့်သက်ဆိုင်သော ကျန်ဥပဒေသများ

(၃) فاعل သည်ظاهر ဖြစ်ပြီး مؤنث حقيقي လည်းဖြစ်မည်။ ထို့အတူ فعلနှင့် فاعل ကြား တစ်ခုခုခြားနားနေပါက فعل ကို مذكر (သို့) مؤنث အသုံးပြုနိုင်သည်။

ဥပမာ - قَرَأَ فِي الْمَدْرَسَةِ فَاطَمَةُ - قَرَأَتْ فِي الْمَدْرَسَةِ فَاطِمَةُ

(၄) فاعل သည် ظاهر ဖြစ်ပြီး مؤنث حقيقى မဟုတ်ပါက فعل ကို مذكر (သို့) مؤنث အသုံးပြုနိုင်သည်။

ဥပမာ - طَلَعَ الشَّمْسُ - طَلَعَتِ الشَّمْسُ

(၅)فاعل သည် ظاهر ဖြစ်ပြီး جمع مكسر ဖြစ်မည်ဆိုလျှင် فعل ကို مذكر (သို့) مؤنث အသုံးပြုနိုင်သည်။

ဥပမာ - قَامَ الرِّجَالُ - قَامَتِ الرِّجَالُ

(၆)فاعل သည် جمع مكسر ဘက်သို့လှည့်သော ضمير ဖြစ်ပါက فعل ကို مذكر (သို့) مؤنث အသုံးပြုနိုင်သည်။

ဥပမာ - اَلرِّجَالُ قَامُوْا - اَلرِّجَالُ قَامَتْ

မှတ်သားရန်။ ။

( مؤنث حقيقى) ဆိုသည်မှာ မိမိ၏ဆန့်ကျင်ဘက်တွင် သက်ရှိ مذكر (အဖို) ရှိသော (မ'လိင် အစစ်)ကို ခေါ်ဆိုပါသည်။

## လေ့ကျင့်ခန်း

**ကျက်မှတ်ရန် စတ်ဆစ်များ**

زَحَفَ တရွေ့ရွေ့သွားခြင်း خَمَشَ ခြစ်ကုတ်ခြင်း اَلدَّبَّابَةُ တင့်ကား

၁။အောက်ပါ فعل များမှ ضمير بارز နှင့် ضمير مستتر ကို ခွဲခြားဖေါ်ပြပါ။

(၁) يَأْكُلُ (၂) جَلَسَا (၃) صَدَقُوْا (၄) تَذْهَبْنَ (၅) تَشْرَبُ

(၆) طَلَعَ (၇) يَطْلُبَانِ (၈) ضَحِكْتُنَّ (၉) لَعِبْتَ (၁၀) نَدْخُلُ

၂။အောက်ပါ ဝါကျများကို သရတပ်ပြီးနောက် فاعل များကို အမျိုးအစားများနှင့်တကွရေးသားပါ။

ဥပမာ - يُرِيْدُ الْمُدَرِّسُ أَنْ يَّذْهَبَ إِلىٰ الْمَدْرَسَةِ

اَلْمُدَرِّسُ : فاعل ظاهر

يَذْهَبَ : (هو) فاعل مضمر

(၁) ذهب حامد وزيد إلى المكتبة . (၂) الطالبة اجتهدت في العلوم الدينية .

(၃) الرجلان القويان يرجعان من المسجد. (၄) خرجت الطبيبات من المستشفى.

(၅) ريشة قلمي كسرت في حجرة الدرس. (၆) طائفة من كبار العلماء اجتمعوا.

၃။ အောက်ပါ فعل များအတွက် သင့်လျော်သော فاعل များကို إعراب နှင့်တကွ ဖြည့်စွက်ပါ။

(١) تقرأ .................. (٢) ينام ............ (٣) زحفت ............

(٤) خمش............ (٥) تلعب ............

၄။ အောက်ပါ فاعل များအတွက် သင့်လျော်သော فعل များကို إعراب နှင့်တကွ ဖြည့်စွက်ပါ။

(١) المسلمون............إلى المسجد (٢) ............ الممرضات من البيت.

(٣) الدبابتان ............ إلى القرية . (٤) أنتن ............ كتابا.

## (၂) نَائِبُ الْفَاعِلِ (သို့) مفعولٌ مَالَمْ يُسَمَّ فَاعِلُهُ အကြောင်း

مفعولٌ مَالَمْ يُسَمَّ فَاعِلُه ဆိုသည်မှာ فعل مجهول ၏နောက်တွင် فاعل ၏ကိုယ်စား လာရှိသော اسم مرفوع ကိုခေါ်သည်။ ၎င်းကို نائب الفاعل ဟုလည်း ခေါ်သည်။

ဥပမာ - قُتِلَ كَلْبٌ ← قَتَلَ السَّارِقُ كَلْبًا

(ခွေးတစ်ကောင်အသတ်ခံခဲ့ရသည်။) (သူခိုးသည် ခွေးတစ်ကောင်ကို သတ်ခဲ့သည်။)

نائب الفاعل ၏ فعل ကို جمع - تثنية - واحد နှင့် مذكر - مؤنث အသုံးပြုရမည့် ဥပဒေသည် فاعل ၏ဥပဒေကဲ့သို့ ဖြစ်သည်။

| | | | |
|---|---|---|---|
| قُتِلَ كَافِرٌ | قُتِلَتْ كافرةٌ | الكافرُ قُتِلَ | الكافرة قُتِلَتْ |
| قُتِلَ كَافِران | قُتِلَتْ كافرتان | الكافران قتلا | الكافرتان قُتِلَتَا |
| قُتِلَ كَافِرُوْنَ | قُتِلَتْ كافرات | الكافرون قتلوا | الكافرات قُتِلْنَ |

### ဝါကျ၏အစိတ်အပိုင်းများပေါင်းစပ်ပုံ

قُتِلَ كَلْبٌ فِي السُّوْقِ .

قُتِلَ ← الفعل المجهول
كَلْبٌ ← نائب الفاعل
فِي ← حرف الجر
السُّوْقِ ← مجرور
(جملة فعلية خبرية)

မှတ်သားရန်

**فاعل ကိုဖြုတ်ချ၍ نائب الفاعل အသုံးပြုရခြင်း၏ ရည်ရွယ်ချက်အချို့မှာ ......**

(၁) فاعل ကို မသိရှိလိုက်ရသောအခါ

ဥပမာ - سُرِقَ المَتَاعُ (ပစ္စည်းအခိုးခံလိုက်ရသည်။)

(၂) فاعل သည် ကျော်ကြားလွန်းသဖြင့် သိရှိပြီး ဖြစ်နေသောအခါ

ဥပမာ - خُلِقَ الإِنْسَانُ (လူသားဖန်ဆင်းခြင်းခံခဲ့ရသည်။)

ဖန်ဆင်းရှင်သည် အလ္လာဟ်အရှင်မြတ်သာဖြစ်ကြောင်းအားလုံးသိရှိပြီး ဖြစ်သည်။

(၃) فاعل ကို ကြောက်ရသောအခါ ။

ဥပမာ - ظُلِمَ الْمِسْكِيْنُ (ဆင်းရဲသား ညှင်းပမ်းနှိပ်စက်ခြင်းခံခဲ့ရသည်။)

ဤဥပမာတွင် ညှင်းပမ်းနှိပ်စက်သူ فاعلအား ကြောက်ရသောကြောင့် ဖော်ပြမထားခြင်း ဖြစ်သည်။

မှတ်ချက်။ ။ အရဗီစာပေတွင် အချို့သော فعل များသည် အမြဲ مجهول အဖြစ်နှင့်သာ အသုံးပြုရသည်။ ထို فعل များမှာ -

| | |
|---|---|
| جُنَّ (ရူးသွပ်သွားခြင်း ၊ ဖုံးလွှမ်းသွားခြင်း) | طُلَّ (ဂရုစိုက်ခံရခြင်း) |
| أُوْلِعَ (စွဲလမ်းခြင်း၊ အရူးအမူးဖြစ်ခြင်း) | عُنِيَ ( ဂရုစိုက်ခံရခြင်း ) |
| حُمَّ (ဖျားနာခြင်း) | غُمَّ (ဖုံးကွယ်သွားခြင်း) |
| أُغْمِيَ (မူးမေ့သွားခြင်း) | غُشِيَ (မူးမေ့သွားခြင်း) |

## လေ့ကျင့်ခန်း

၁။ အောက်ပါ ဝါကျများတွင် فاعل များကို ဖြုတ်ချ၍ مفعول به များကို نائب الفاعل ပြုလုပ်ပါ။ ထို့နောက် إعراب တပ်ပေးပါ။

ဥပမာ - شَرَحَ الْأُسْتَاذُ الدَّرْسَ . မှ شُرِحَ الدَّرْسُ .

(၁) نصر اللّٰه المجاهد (၂) يكسر إبراهيم الأصنام . (၃) ماسرق اللص البيت .

(၄) قطف الطالب زهرة. (၅) ضرب الرجل ولده. (၆) النساء يطبخن الطعام.

၂။ အသင်တို့၏စာသင်ခန်းနှင့်ပတ်သက်၍ نائب الفاعل ပါဝင်သော جملة (၅) ခုကိုရေးပါ။

၃။ အောက်ပါ ဝါကျများကို إعراب တပ်၍ မြန်မာဘာသာသို့ပြန်ဆိုပါ။

(၁) تُفْتَحُ الدكاكين في الساعة العاشرة . (၂) بُعِثَ موسى إلى فرعون وقومه.

(၃) أُمِرَتْ المسلمات بالحجاب. (၄) قُطِعَتْ يد السارق.

(၄) يُصْنَعُ الحذاء من الجِلد. (၆) مُنِحَ الطلاب الفائزون بالجائزة.



## (၃+၄) مبتدأ နှင့် خبر အကြောင်း

مبتدأ ဆိုသည်မှာ جملة اسمية ၏အစတွင်လာရှိသော مرفوع اسم ကို ခေါ်သည်။

خبر ဆိုသည်မှာ مبتدأ နှင့်ပတ်သက်သည့် သတင်းပေးသော مرفوع اسم ကို ခေါ်ဆိုသည်။

ဥပမာ - اَللّٰهُ وَاحِدٌ

اَللّٰهُ → مبتدأ ، وَاحِدٌ → خبر

အသင်တို့သည် مبتدأ နှင့် خبر တို့၏ အမိန့်ပညတ်ချက်အချို့ကို သင်ခန်းစာ (၁၀) တွင် ဖတ်ရှုခဲ့ပြီး ဖြစ်သည်။ ကျန်ရှိနေသော အမိန့်ပညတ်ချက်များကို ဤသင်ခန်းစာတွင် ဖော်ပြသွားမည်။

(၁)အကယ်၍ مبتدأ သည် مُخْتَصٌّ موصوف (သီးသန့်ပြုခြင်းခံရသော موصوف ) ဖြစ်ပါက نكرة ဖြစ်သော်ငြားလည်း ၎င်းကို مبتدأ အဖြစ် သတ်မှတ်ရမည်။

ဥပမာ- طَالِبٌ مُسْلِمٌ خَيْرٌ من طَالِبٍ كَافِرٍ

(မွတ်စ်လင်မ် ကျောင်းသားသည် ကာဖိရ်ကျောင်းသားထက် သာပိုကောင်းမွန်သည်။)

အထက်ပါ ဥပမာတွင် طَالِبٌ مُسْلِمٌ သည် نكرة ဖြစ်သော်လည်း مختص موصوفဖြစ်သည့်အတွက် مبتدأ ဖြစ်သည်။

(၂)အကယ်၍ ဝါကျဖွဲ့စည်းထားသော اسم (နာမ်) နှစ်ခုလုံးသည် معرفة ဖြစ်နေပါကတစ်ခုခုကိုمُبْتَدَأٌ အဖြစ် သတ်မှတ်ပြီး ကျန်တစ်ခုကို خبر အဖြစ် သတ်မှတ်နိုင်သည်။

ဥပမာ - مُحَمَّدٌ نَبِيُّنَا ၎င်းဥပမာတွင် محمد ကို مبتدأ အဖြစ် သတ်မှတ်ပြီး نبينا ကို خبر အဖြစ်သတ်မှတ်နိုင်သကဲ့သို့ نبينا ကို مبتدأ အဖြစ်သတ်မှတ်ပြီး محمد ကို خبر အဖြစ်လည်း သတ်မှတ်နိုင်သည်။

(၃)خبر သည် جملة အဖြစ်နှင့်လာပါက ၎င်း جملة ထဲတွင် مبتدأ ဘက်သို့ လှည့်သော ضمير (နာမ်စား) ထည့်သွင်းပေးရန် အရေးကြီးသည်။

ဥပမာ-

زيد أبو ه قائم

زيد → مبتدأ

أبو → مضاف ، ه → مضاف إليه ؛ مضاف + مضاف إليه → مبتدأ

قائم → خبر

مبتدأ + خبر → جملة اسمية خبرية → خبر

(၄)مبتدأ ၏နောက်တွင် خبر လာသည်။ သို့သော် တခါတရံ خبر အရင်လာတတ်သည်။

ဥပမာ- فِي الْمَدْرَسَةِ الْمُدِيْرُ - عِنْدِيْ قَلَمٌ - فِي الْمَسْجِدِ مُحَمَّدٌ




(၅)အကယ်၍ مبتدأ သည် غير ذوي العقول (အသိဉာဏ်ကင်းမဲ့သောအရာ) တစ်ခုခု၏ جمع ဖြစ်ပါက ၎င်း၏ خبر သည် များသောအားဖြင့် مفرد مؤنث အသုံးပြုသည်။

တခါတရံ جمع مؤنث လည်းအသုံးပြုသည်။

ဥပမာ- الْأَقْلَامُ ثَمِيْنَةٌ - الْأَقْلَامُ ثَمِيْنَاتٌ

(၆)مبتدأ တစ်ခုအတွက် خبر များစွာ လာနိုင်သည်။

ဥပမာ- زَيْدٌ عَاقِلٌ عَالِمٌ فَاضِلٌ - اَللّٰهُ عَلِيْمٌ حَكِيْمٌ رَحِيْمٌ كَرِيْمٌ

(၇) اسم الإشارة နှင့် مُشَارٌ إِلَيْهِ တို့ပေါင်းစပ်ပြီး مبتدأ လည်းဖြစ်နိုင်သကဲ့သို့ خبر လည်း ဖြစ်နိုင်သည်။

ဥပမာ - هٰذَا الْوَلَدُ نَاجِحٌ (ဤကလေးသည် အောင်မြင်သူဖြစ်သည်။)

الطالبُ هٰذَا الْوَلَدُ (ကျောင်းသားသည် ဤကလေးသာလျှင်ဖြစ်သည်။)









## လေ့ကျင့်ခန်း

**ကျက်မှတ်ရန် စကားလုံးများ**

| | | |
|---|---|---|
| اَلزِّحَامُ လူအုပ် | كَثِيفٌ ထူထပ်ခြင်း | قَيِّمٌ ခိုင်မာသော |
| أُرْجُوحَةٌ ဒန်း | وِسَادَةٌ မွေ့ရာ | |

၁။ အောက်ပါ ဝါကျများကို သရုပ်ခွဲပါ။ ထို့နောက် مبتدأ နှင့် خبر ကို သတ်မှတ်ပေးပြီး အဓိပ္ပါယ် ပြန်ဆိုပါ။

(١) الزحام كثيف . (٢) هذَا الحصان سريع . (٣) فاطمة ناجحة.

(٤) محمد رسولنا. (٥) المسلمون هؤلاء الرجال. (٦) الطالبان يمشيان.

၂။ အောက်ပါ مبتدأ များနှင့် သင့်လျော်သော خبر များကို ရေးသားပါ။

السماء ـ الأرض ـ الأشجار ـ الكلبان ـ الرجل ـ المرأتان ـ الشمس

၃။ အောက်ပါ خبر များနှင့် သင့်လျော်သော مبتدأ များကို ရေးသားပါ။

طويل ـ سريعتان ـ صادقون ـ فصيحان ـ ذكية ـ أمين ـ واسع

၄။ مبتدأ နှင့် خبر ပေါင်းထားသော جملة (၅) ခုရေးသားပါ။

၅။ အသင်တို့၏ စာသင်ခန်းနှင့်ပတ်သက်ပြီး مبتدأ နှင့် خبرပါသော جملة (၅) ခုရေးသားပါ။

၆။ အောက်ဖော်ပြပါ جملة များကို ပေးထားသည့်ဥပမာအတိုင်း ရှင်းပြပါ ။




(١) حَسَنٌ أُمُّهُ طَبيبةٌ . (٥) أزهار الحديقة جميلة .

(٢) الولد في الأرجوحة . (٦) دين الإسلامِ قَيِّمٌ.

(٣) هذا الطالب من اليابان . (٧) الوسادة فوق السرير.

(٤) اللّهُ خَلَقَنَا. (٨) الطالب المجتهد في الجامعة .

## (၅) إنّ နှင့်အပေါင်းအပါတို့၏ خبر အကြောင်း

إنّ နှင့်အပေါင်းအပါတို့မှာ - إِنَّ - أَنَّ - كَأَنَّ - لَيْتَ - لٰكِنَّ - لَعَلَّ တို့ဖြစ်သည်။ ၎င်းတို့ကို حُرُوْفٌ مُشَبَّهَةٌ بالفعل (فعل နှင့် တူဆင်သောအက္ခရာများ) ဟု ခေါ်ဆိုသည်။ ၎င်းတို့သည် مبتدأ နှင့် خبر အပေါ်ဝင်ကာ مبتدأ ကို نصب (ـَـًـ) ပေး၍ خبر ကို رفع (ـُـٌـ) ပေးမည်။ ၎င်း مبتدأ ကို اسم إنّ وأخواتها ဟု ခေါ်ဆို၍ خبر ကို خبرإنّ وأخواتها ဟု ခေါ်ဆိုသည်။

| إِنَّ | اللّٰهَ | عَلِيْمٌ |
|---|---|---|
| حرف مشبه بالفعل | اسم "إنّ" | خبر "إنّ" |

## إنّနှင့်အပေါင်းအပါတို့၏ အသုံးပြုပုံများ

၁+၂။ စကားကို ပိုမိုလေးနက်စေရန်إِنَّ နှင့် أَنَّ ကိုအသုံးပြုသည်။

ဥပမာ - الطالبُ نَاجِحٌ (ကျောင်းသားသည်အောင်မြင်သည်) — إِنَّ الطَّالِبَ نَاجِحٌ (ကျောင်းသားသည် မုချအောင်မြင်သည်)

فَاطِمَةُ طَيِّبَةٌ (ဖာသွေ့မာသည် ဆရာဝန်မတစ်ဦးဖြစ်သည်။) — عَلِمْتُ أَنَّ فَاطِمَةَ طَيِّبَةٌ (မုချ ဖာသွေ့မာသည်ဆရာဝန်မတစ်ဦးဖြစ်ကြောင်းကျွန်တော်သိခဲ့ရသည်။)

**إِنَّ နှင့် أَنَّ ကြား ခွဲခြားရန် နည်းလမ်းအချို့မှာ ……**

**إِنَّ ဖတ်ရမည့် နေရာများ……**

(၁) جملة အစတွင် إِنَّ ဖတ်ရမည်။ ဥပမာ - . إِنَّ اللّٰه عليم

(၂) اَلْقَسَمُ (ကျိမ်ဆိုသော ဝါကျနောက်တွင်) إِنَّ ဖတ်ရမည်။

ဥပမာ - ﴿والقرآن الحكيم ☆ إنك لمن المرسلين﴾

(၃) قَوْلٌ နှင့် ၎င်းမှဆင့်ပွားခဲ့ထွက်လာသောပုဒ်စုတို့၏နောက်တွင် إِنَّ ဖတ်ရမည်။

ဥပမာ - ﴿قال : إِنِّي عبدُ اللّٰهِ﴾، يَقُوْلُ الْمُدِيرُ للطلابِ : "إِنَّ الدَّرْسَ سَهْلٌ" .

(၄) خبر ၏ အစတွင် "لَـ" ပါရှိပါက إِنَّ ဖတ်ရမည်။

ဥပမာ - نَعْرِفُ إِنَّ الكَافِرَ لَـكَاذِبٌ.

(၅) حَرْفُ التَّنْبِيْهِ (သတိပေးပုဒ်)ဖြစ်သော "أَلَا"၏နောက်တွင်ကျရောက်ပါကإنّ ဖတ်ရမည်။

ဥပမာ - ﴿أَلَا إِنَّ أَوْلِيَاءَ اللّٰهِ﴾ (သတိ၊ ဧကန် အရှင်မြတ်၏ အချစ်တော်များသည်)

(၆) حرف النداء ၏ နောက်တွင် ကျရောက်သောအခါ إنّ ဖတ်ရမည်။

ဥပမာ - يَاوَلَدُ إِنَّ الصَّلَاةَ عِبَادَةٌ (အို-ကလေးငယ် မုချနမားဇ်သည် ခဝ်မှုတစ်ခုဖြစ်သည်။)

أَنَّ ဖတ်ရမည့် နေရာများ ……

(၁) ဝါကျ၏ အလယ်တွင် ကျရောက်သောအခါ أَنَّ ဖတ်ရမည်။

ဥပမာ - بَلَغَنِيْ أَنَّ الْمُجْتَهِدَ نَاجِحٌ .

(ကျွန်ုပ်ထံသတင်းရောက်ခဲ့သည်မှာ "ဇောန်အမှန် ကြိုးစားသူ အောင်မြင်သည်။")

(၂) غَيْرَ နှင့် سِوٰى တို့နောက်တွင် ကျရောက်သောအခါ أَنَّ ဖတ်ရမည်။

ဥပမာ - قَرَأْتُ سِوٰى أَنِّي لَمْ أَفْهَمِ الدَّرْسَ، قَرَأْتُ غَيْرَ أَنِّي لَمْ أَفْهَمِ الدَّرْسَ

(ကျွန်တော်ဖတ်ခဲ့သည်၊ သို့သော် သင်ခန်းစာကို နားမလည်ခဲ့ပါ။)



၃။ لٰكِنَّ သည် استدراك အတွက်လာသည်။ استدراك ဆိုသည်မှာ ရှေ့စကားကို နောက်စကားမှပယ်ဖျက်ခြင်း (သို့) ဖြည့်စွက်ခြင်းကို ဆိုလိုသည်။

ဥပမာ - حَامِدٌ طَبِيْبٌ لٰكِنَّ مَحَمَّدًا مُهَنْدِسٌ.

(ဟာမိဒ်သည်ဆရာဝန်ဖြစ်သည်။ သို့သော်မုဟမ္မဒ်မှာ အင်န်ဂျင်နီယာဖြစ်သည်။)

၄။ كَأَنَّ သည် ပမာပေး ခိုင်းနှိုင်းရန်အတွက်လာသည်။

ဥပမာ - كَأَنَّ حَامِدًا نَجْمٌ. (ဟာမိဒ်သည် ကြယ်စင်ပမာဖြစ်သည်။)

၅။ لَيتَ သည် မဖြစ်နိုင်တော့သည့်အရာကို မျှော်လင့်တမ်းတရန်အတွက်လာသည်။

ဥပမာ - لَيْتَ الشَّبَابَ عَائِدٌ

အဖိုးအိုတစ်ဦးက (လူငယ်ဘဝပြန်လှည့်လာလျှင်ကောင်းလေစွ) ဟုတမ်းတခြင်း

၆။ لَعَلَّ သည် ဖြစ်နိုင်သည့်အရာကို မျှော်လင့်ရန်အတွက်လာသည်။

ဥပမာ - لَعَلَّ الطَّالِبَ مُجْتَهِدٌ (ကျောင်းသားသည် ကြိုးစားသောသူဖြစ်လျှင်ကောင်းလေစွ)



## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများ၏အစတွင် إِنَّ နှင့်အပေါင်းအပါတို့မှ သင့်လျော်သော စာလုံးကိုသုံး၍ اعراب (ـَـــِــُـ) တပ်ပါ။

| | | | |
|---|---|---|---|
| (၁) العلم نافع | (၂) البيت كبير | (၃) الرداء رخيص | (၄) المطر قليل |
| (၅) القمر مصباح | (၆) الكتاب أستاذ | (၇) الولد ذكي | (၈) الفاكهة حلوة |
| (၉) المريض نائم | (၁၀) الصيام جنة | | |

၂။အောက်ပါကွက်လပ်များတွင် သင့်လျော်သော خبر များဖြည့်စွက်ပြီး သရတပ်ပါ။

(၁) إن البدر ...... (၂) اشتد المطر لكن الشارع ...... (၃) لعل الطائرة ......

(၄) ليت الصيف ...... (၅) كأن البيت ...........

၃။ အောက်ပါကွက်လပ်များကို သင့်လျော်သော اسم များဖြင့် ဖြည့်စွက်ပြီး သရတပ်ပါ။

(၁) ليت ...... ...... مفتوح (၂) عرفتُ أنّ ........... صادق

(၃) لعل ...........عادل (၄) كأن........... ذهَبٌ

(၅) البيت جديد لكن ........... قديم .

၄။ အောက်ပါဝါကျများကို အရဗီဘာသာသို့ပြန်ဆိုပါ။

**ကျက်မှတ်ရန် စကားလုံးများ–**

جَوَّالٌ / نَقَّالٌ - ဟန်းဖုန်း
ثَمِيْنٌ / اَلْغَالِيْ - ဈေးကြီးသော
مِصْبَاحٌ - မီးအိမ်
مُنْصِفٌ / عَادِلٌ - တရားမျှတသူ
ظَالِمٌ - မတရားပြုသူ
اَلصِّبَا / طُفُوْلَةٌ - ကလေးဘဝ
فَلْسٌ (ج) فُلُوْسٌ - ပိုက်ဆံ
تِجَارَةٌ - ရောင်းဝယ်ဖောက်ကားမှု
رَابِحَةٌ - အကျိုးအမြတ်ရှိသော
مُظْلِمٌ - မှောင်မိုက်သော
الحَيَاةُ - ဘဝ/သက်တမ်း
اَلْخَالِيْ - ကင်းရှင်းသော
اَلْحُزْنُ - ပွေးဆွေးသောက
قُرْصٌ - အလုံး/အဝိုင်း
اَلْجَوُّ - ရာသီဥတု/ပတ်ဝန်းကျင်
بَهِيْجٌ - သာယာသော

(၁) မုချ ဟန်းဖုန်းသည် ဈေးကြီးသည်။

(၂) ကျွန်တော်သိသည်မှာ-ကျိုးစားသူများသည် မုချ အောင်မြင်သူများဖြစ်သည်။

(၃) မဟ်မူးဒ်သည် တရားမျှတသူဖြစ်သည်။သို့သော် သူ၏သမီးနှစ်ဦးမှာ မတရားပြုသူမများဖြစ်ကြသည်။

(၄) ကျောင်းသည် မီးအိမ်နှင့်တူသည်။

(၅) ကလေးဘဝ ပြန်ရောက်လာလျှင် ကောင်းလေစွ !

(၆) ကျောင်းသားအားလုံးသည် ကြိုးစားသူများဖြစ်လျှင်ကောင်းလေစွ !

၅။အောက်ပါဝါကျများကို ب ار إعراب ပိုင်းတွင်ပြဆို၍ မြန်မာဘာသာသို့ပြန်ဆိုပါ။

(၁) الثوب جميل لكن الفُلُوْس قَلِيْلَة
(၂) لعل التجارة رابحة .
(၃) عرفتُ أن الليل مُظْلِمٌ.
(၄) ليت الحياة خالية من الحزن.
(၅) كأن الشمس قرص من الذهب.
(၆) إن الجو بهيج.

၆။အောက်ပါဝါကျများတွင် إِنَّ နှင့် أَنَّ ကို ခွဲခြားပြပါ။

(၁) قلتُ له : " انَّ الليلَ مظلمٌ.
(၂) ظَنَنْتُ انَّ العَاصِفَةَ قَرِيْبَةٌ
(၃) قَرَأْتُ غَيْرَ اني لَمْ أَفْهَم.
(၄) ألا انَّهُمْ هُمُ السُّفَهَاءُ.
(၅) واللّٰهِ انَّ الرَّجُلَ صَادِقٌ.
(၆) ياوَلَدِي انَّكَ فَخْرٌ لِيْ.

## (၆) کان နှင့် အပေါင်းအပါတို့၏ اسم အကြောင်း

کان နှင့်အပေါင်းအပါတို့မှာ ----

(၁) كَانَ (၂) صَارَ (၃) أَصْبَحَ

(၄) أَمْسٰى (၅) أَضْحٰى (၆) ظَلَّ

(၇) بَاتَ (၈) آضَ (၉) عَادَ

(၁၀) غَدَا (၁၁) رَاحَ (၁၂) مَازَالَ

(၁၃) مَابَرِحَ (၁၄) مَافَتِىءَ (၁၅) مَاانْفَكَّ

(၁၆) مَادَامَ (၁၇) لَيْسَ တို့ဖြစ်သည်။

၎င်းတို့ကို أفعـــال نـاقصة (လျော့နည်းသော فعـل များ) ဟု ခေါ်ဆိုသည်။ အဘယ့်ကြောင့်ဆိုသော် ယင်းတို့၏ အဓိပ္ပါယ်မှာ اسم နှင့်မပြည့်စုံဘဲ خبر ကိုပါလိုအပ်သောကြောင့်ဖြစ်သည်။

၎င်းတို့သည်လည်း إنّ နှင့်အပေါင်းအပါများကဲ့သို့ مبتـــدأ နှင့် خبـــر အပေါ်သို့ ဝင် ရောက်သည်။ သို့သော် ၎င်းတို့သည် مبتدأ ကို رفع (ــُـــٌ) ပေးပြီး ထို مبتدأ ကို کان နှင့် အပေါင်းအပါတို့၏اســم ဟု ခေါ်ဆိုသည်။ خبر ကို نصب (ـــً) ပေးပြီး ထိုخبرကို کان နှင့်အပေါင်းအပါတို့၏ خبر ဟု ခေါ်ဆိုသည်။

ဥပမာ - كَانَ زَيْدٌ قَائِماً

**ဝါကျ၏အစိတ်အပိုင်းများ ပေါင်းစပ်နည်း**

کان နှင့်အပေါင်းအပါတို့၏ ဥပမာများ……

(၁) كَانَ حامدٌ فقيرًا. (ဟာမိဒ်သည် သူဆင်းရဲဖြစ်ခဲ့သည်။)

(كَانَ = فعل ناقص ، حامدٌ = اسم كان ، فقيرًا = خبر كان)

(၂) صَارَ يَاسِرٌ غَنِيًّا - ယာစစ်ရ် ကြွယ်ဝသူ ဖြစ်သွားခဲ့ပြီ။

(၃) أَصْبَحَ الطَّالِبُ نَاجِحاً - ကျောင်းသားသည် နံနက်ခင်းတွင်အောင်မြင်သူ ဖြစ်သွားခဲ့ပြီ။

(၄) أمسٰى مُحَمَّدٌ ذَاكِراً - မုဟမ္မဒ် ညနေခင်း၌ ဇိကရ်ပြုသူ ဖြစ်သွားခဲ့သည်။

(၅) أَضْحَى الْمُجَاهِدُ شَهِيْداً - မုဂျာဟစ်ဒ်သည် နေမြင့်ချိန်တွင် ရှဟီးဒ် ဖြစ်ခဲ့သည်။

(၆) ظَلَّ الْمُسَافِرُ رَاجِعاً - ခရီးသည်သည် နေ့အချိန်၌ ပြန်လာသူ ဖြစ်ခဲ့သည်။

(၇) بَاتَ الصَّالِحُ عَابِداً - သူတော်ကောင်းသည် ညအချိန်၌ တရားအားထုတ်သူ ဖြစ်ခဲ့သည်။

(၈) آضَ الثَّلْجُ مَاءً - ရေခဲသည် ရေဖြစ်သွားခဲ့ပြီ။

| | |
|---|---|
| (၉) عَادَ عُمَرُ شَيْخاً | - အုမရ်သည် အဖိုးအို ဖြစ်သွားခဲ့ပြီ။ |
| (၁၀) غَدَا مُحَمَّدٌ طَالِبًا | - မုဟမ္မဒ်သည် နံနက်အချိန်တွင် ကျောင်းသားဖြစ်သွားခဲ့သည်။ |
| (၁၁) راحَ الكَافِرُ قَتِيْلاً | - ကာဖိရ်သည် ညနေအချိန်တွင် အသတ်ခံရသူဖြစ်သွားခဲ့သည်။ |
| (၁၂) مَازَالَ حَسَنٌ خَطِيْبًا | - ဟစံသည် အမြဲ တရားဟောသူ ဖြစ်ခဲ့သည်။ |
| (၁၃) مَابَرِحَ الْبَابُ مَفْتُوْحاً | - တံခါးသည် အမြဲပွင့်နေခဲ့သည်။ |
| (၁၄) مَافَتِئَ الْوَالِدُ مُؤَدِّبًا | - ဖခင်သည် အမြဲဆုံးမသူဖြစ်ခဲ့သည်။ |
| (၁၅) مَا انْفَكَّ الْكَافِرُ عَاصِياً | - ကာဖစ်ရ်သည် အမြဲ အမိန့်ဖီဆန်သူ ဖြစ်ခဲ့သည်။ |
| (၁၆) أَخْدُمُ مَادَامَ زَيْدٌ مَرِيْضاً | - ဇိုင်းဒ် နာမကျန်းဖြစ်နေသ၍ ကျွန်တော် ပြုစုမည်။ |
| (၁၇) لَيْسَ يُوْسُفُ قَائِماً | - ယူစွတ်ဖ် ရပ်နေသူမဟုတ်ပါ။ |

## كان နှင့် အပေါင်းအပါတို့၏ ကျန်ပညတ်ချက်များ

၁။ كان နှင့် အပေါင်းအပါတို့၏ خبر ကို ၎င်းတို့၏ اسم များအလျင် အသုံးပြုခြင်းပိုင်သည်။

ဥပမာ- كَانَ قَائماً زَيْدٌ

(كَانَ ← فعل ناقص ، قَائماً ← خبر"كان" ، زَيْدٌ ← اسم "كان")

၂။ حرف النفي "ما" ပါဝင်သော أفعال ناقصة များမှလွဲ၍ ကျန် أفعال ناقصة တို့အလျင် ၎င်းတို့၏ خبر ကို ယူလာခြင်းပိုင်သည်။

ဥပမာ- قائماً كان زيدٌ

သို့သော် قائما مازال زيد ဟု ပြောခြင်း မမှန်ပါ။

မှတ်ချက်။ ليس ။ ၏အလျင် خبر ယူလာခြင်းနှင့်ပတ်သက်ပြီး نحو ပညာရှင်များထံတွင် အကွဲအလွဲရှိသည်။

## လေ့ကျင့်ခန်း

**ကျက်မှတ်ရန်စကားလုံးများ**

| | | |
|---|---|---|
| نَافِعٌ - အကျိုးပြုသောအရာ | مُنْفَطِرَةٌ - ကွဲအက်ခြင်း | مَحْزُوْنٌ - ဝမ်းနည်းကြေကွဲခြင်း |
| اَلْكَبْشُ - သိုးထီး | مَحْبُوْسٌ - အချုပ်နှောင်ခံရသူ | اَللِّصُّ - သူခိုး |
| الحَلِيْبُ - နို့ | شُجَاعٌ - ရဲစွမ်းသတ္တိရှိသူ | قَاطِعٌ - ဖြတ်တောက်သောအရာ |
| نَادِمٌ - နောင်တရသူ | أَكْرَمَ - ဂုဏ်ပေးလေးစားခြင်း | جُبْنٌ - ဒိန်ခဲ |
| مُطِيْعٌ - အမိန့်နာခံသူ | مطفئ - ငြိမ်းသောအရာ | الشَّابُ -လူပျို |

၁။ အောက်ပါဝါကျများတွင် كان နှင့် အပေါင်းအပါတို့မှ သင့်လျော်သော فعل ناقص ကိုထည့်သွင်း၍ စာလုံးများ၏နောက်ဆုံးအက္ခရာများအပေါ်၌ إعراب များကို တပ်ပါ။

(၁) اَلْعِلْمُ نَافِع
(၂) اَلصُّوْرَةُ جَمِيْلَة
(၃) اَلْقَلْبُ مَحْزُوْن
(၄) اَلْمَلِكُ ظَالِم
(၅) اَلْأُسْتَاذُ جَالِس
(၆) اَلسَّمَاءُ مُنْفَطِرَة
(၇) اَلْكُرْسِيُّ قَدِيْم
(၈) اَللِّصُّ مَحْبُوْس
(၉) اَلْكَبْشُ سَمِيْن
(၁၀) اَلسَّيْفُ قَاطِع

၂။အောက်ပါဝါကျများကို မြန်မာဘာသာဖြင့် ပြန်ဆိုပြီး ဝါကျဖွဲ့စည်းပြပါ။

ဥပမာ - مُهَنْدِسًا حَامِدٌ أَمْسٰى (ဟာမိဒ်သည် ဆည်းဆာအချိန်တွင် အင်ဂျင်နီယာဖြစ်သွားခဲ့သည်။)

فعل ناقص اسم "أَمْسٰى" خبر "أمسى"

(၁) كَانَ مَحْمُوْدٌ شُجَاعاً
(၂) بَاتَ الْوَلَدُ قَارِئاً
(၃) أَصْبَحَ الْغَنِيُّ فَقِيْراً
(၄) صَارَ الشَّابُّ شَيْخاً
(၅) أضحَى الْقِطَارُ سَرِيْعاً
(၆) آضَ الْحَلِيْبُ جُبْناً
(၇) أُكْرِمُ مَادَامَ الضَّيْفُ مَوْجُوْداً
(၈) مَا انْفَكَّ النَّادِمُ تَائِباً
(၉) مَابَرِحَ الْمِصْبَاحُ مُطْفِئاً
(၁၀) لَيْسَ الْكَافِرُ مُطِيْعاً



## (၇) المشبهتين بليس 'ما' و 'لا' اسم (ليس နှင့် တူဆင်သော ما နှင့် لا ) တို့၏ اسم အကြောင်း

ဝင်းတို့သည်လည်း ليس ကဲ့သို့ مبتدأ နှင့် خبر အပေါ်သို့ ဝင်ရောက်ပြီး ليس နည်းတူ مبتدأ ကို رفع (ـُـٌ) ပေးပြီး خبر ကိုنصب (ـَـً ) ပေးသည်။

ما နှင့် لا ဝင်ရောက်သော مبتدأ ကို ما နှင့် لا တို့၏ اسم ဟုခေါ်ပြီး خبر ကို ما နှင့် لا တို့၏ خبر ဟု ခေါ်သည်။

ဥပမာ-

| قَائِماً | عَمْرٌو | مَا |
|---|---|---|
| خبر "ما" | اسم "ما" | "ما" المشبهة بليس |
| قَائِماً | رَجُلٌ | لَا |
| خبر "لا" | اسم "لا" | "لا" المشبهة بليس |

မှတ်ချက်။ ။ " ما " သည် نكرة နှင့် معرفة နှစ်ခုစလုံးအပေါ်၌ ဝင်ရောက်ပြီး " لا " သည် သီးသန့် نكرة အပေါ်၌သာ ဝင်ရောက်သည်။

❁❁❁

### လေ့ကျင့်ခန်း

**ကျက်မှတ်ရန် စကားစုများ**

فَاسِقٌ - ဘောင်ကျော်သူ     مُتَزَوِّجَةٌ - အိမ်ထောင်ရှင်မ

၁။ အောက်ပါဝါကျများတွင် " ما " နှင့် " لا " တို့အနက် သင့်တော်သည့် စာလုံးကို ထည့်သွင်း၍ إعراب (ـَـ ـِـ ـُـ ، ـً ـٍ ـٌ) ကို ဖေါ်ပြပါ။

(၁) زيد فاسق     (၂) قلم أطول من المسطرة

(၃) زينب متزوجة     (၄) كتاب أحسن من القرآن

(၅) حامد طبيب     (၆) أب أفضل من الأم

## (၈) لنفي الجنس " لا " ၏ خبر အကြောင်း

لنفي الجنس "لا"ဆိုသည်မှာအမျိုးအစားတစ်ခုလုံးအား ငြင်းသည့် "لا" ကိုခေါ်သည်။ ထို"لا" သည် မိမိ၏ اسم ကို فتحة (ـَـ) ပေး၍ خبر ကို رفع (ـٌـ) ပေးမည်။

ဥပမာ - قَائِمٌ رَجُلَ لَا (အမျိုးသားတစ်ဦးတစ်ယောက်မျှ ရပ်မနေပါ။)

خبر "لا" اسم "لا" لنفي الجنس "لا"

لنفي الجنس " لا " - عمل လုပ်ရန် စည်းကမ်းချက်များမှာ……

၁။ " لا " ၏ اسم နှင့် خبر နှစ်ခုလုံးသည် نكرة ဖြစ်ရမည်။

ဥပမာ (၁) - حَاضِرٌ تِلْمِيْذَ لَا (ကျောင်းသားတစ်ယောက်မျှမရောက်ရှိပါ။)

خبر "لا" (نكرة) اسم "لا" (نكرة) لنفي الجنس "لا"

ဥပမာ (၂) - . حا ضِرٌ التِّلْمِيْذُ لَا (ကျောင်းသားသည် မရောက်ရှိပါ။)

(التلميذ - သည် معرفة ဖြစ်နေသည့်အတွက်ကြောင့် لا သည် عمل မလုပ်ပါ။)

၂။ " لا " နှင့် ယင်း၏ اسم ကြားတွင် တစ်ခုခုခြားနားမှုမရှိစေရ ။

ဥပမာ (၁) - . لا وَلَدَ فيْ الحَدِيْقَةِ (ပန်းဥယျာဉ်ထဲတွင် ကလေးတစ်ဦးမျှ မရှိပါ။)

ဥပမာ (၂) - . وَلَدٌ الْحَدِيْقَةِ فِيْ لَا ( ပန်းဥယျာဉ်ထဲတွင် ကလေးမရှိပါ။)

( لا နှင့် ولد ၏ကြားတွင် ခြားနားနေသည့်အတွက်لاသည် عمل မလုပ်ပါ။)

၃။ "لا " ၏ ရှေ့တွင် حرف الجر မလာရှိရ။

ဥပမာ - .أَتَيْتُ الْمَدْرَسَةَ بِلَا كِتَابٍ (ကျွန်တော်သည် ကျောင်းသို့ စာအုပ်မပါဘဲ လာခဲ့သည်။)

حرف الجر လာရှိခြင်းကြောင့် لاသည် عمل မလုပ်တော့ပါ။

မှတ်သားရန်

(၁) "لا "၏ خبرသည် သိရှိပြီးဖြစ်ပါက ဖြုတ်ချနိုင်သည်။

ဥပမာ . اللّٰهُ إلا (مَوْجُوْدٌ) إِلٰهَ لَا

مستثنى حرف الاستثناء خبر "لا" (محذوف) اسم "لا" لنفي الجنس "لا"

(၂) لنفي الجنس " لا " ၏ اسم သည် مفرد ဖြစ်ပါက مبني على الفتح ( فَتْحَةٌ ـَ) နှင့်သာ လာမည်။

ဥပမာ - حَاضِرٌ تِلْمِيْذَ لَا

خبر "لا" (نكرة) اسم "لا"(نكرة ) مبني على الفتح لنفي الجنس "لا"

(၃) لنفي الجنس " لا " ၏ اسم သည် مفرد မဟုတ်ဘဲ مركب ဖြစ်ပါက ـــً منصوب ဖြစ်မည်။ معربဖြစ်သောကြောင့် تنوينလည်း လာနိုင်သည်။

ဥပမာ - . لا قَائِلَ كِذْبٍ محبوبٌ (မှသားပြောသူသည်ချစ်ခြင်းမခံရပါ။)

قَائِلَ = مضاف ، كِذْبٍ = مضاف إليه → اسم "لا" ، لا = لنفي الجنس "لا" ، محبوبٌ = خبر "لا"

ဥပမာ - . لا كاسِرًا قلمًا مَوْجُوْدٌ (ကလောင်တံချိုးသူမရှိပါ။)

كاسِرًا = عامل ، قلمًا = مفعول به → اسم "لا" ، لا = لنفي الجنس "لا" ، مَوْجُوْدٌ = خبر "لا"



## لنفي الجنس "لا"နှင့် المشبهة بليس "لا" တို့၏ ကွာခြားချက်

لنفي الجنس " لا " နှင့် المشبهة بليس " لا " တို့သည် အဓိပ္ပါယ် နှင့် عملလုပ်ခြင်း တို့တွင် ကွာခြားမှုရှိသည်။

(၁) لنفي الجنس "لا"နှင့် المشبهة بليس "لا" တို့၏ အဓိပ္ပါယ်အရကွားခြားပုံ......

المشبهة بليس " لا " သည် အမျိုးအစားတစ်ခုလုံးကို ငြင်းဆန်ခြင်းမပြုပါ။

لنفي الجنس "لا" သည် အမျိုးအစားတစ်ခုလုံးကို ငြင်းဆန်သည်။

(၂) لنفي الجنس "لا"နှင့် المشبهة بليس "لا" တို့၏ عملလုပ်ခြင်းအရ ကွားခြားပုံ......

المشبهة بليس "لا" သည် اسم ကို رفع ပေးပြီး خبر ကို نصب ပေးသည်။

لنفي الجنس "لا" သည် اسم ကို نصب ပေးပြီး خبر ကို رفع ပေးသည်။

المشبهة بليس " لا " ဥပမာ - لاطالبٌ مُجْتَهِدًا (ကျောင်းသားတစ်ဦး ကြိုးစားသူမဟုတ်ပါ)

لنفي الجنس "لا" ဥပမာ - لَا طَالِبَ مُجْتَهِدٌ (ကျောင်းသားတစ်ဦးမျှ မကြိုးစားပါ။)



## လေ့ကျင့်ခန်း

၁။ အောက်ပါကွက်လပ်များတွင် သင့်တော်သော စကားလုံးများကိုရွေးချယ်၍ ဖြည့်ပေးပါ။ ဝါကျတစ်ခုလုံးကို ဧရာဗ်တပ်ပေးပြီးနောက် ဘာသာပြန်ဆိုပါ။

شجرة الرُّمَّان (သလဲသီးပင်)

إِكْرَاهٌ (အတင်းအဓမ္မပြုခြင်း)

أَمَانَةٌ (သစ္စာရှိခြင်း)

عَهْدٌ (ကတိတည်ခြင်း)

راكِبٌ دَرَّاجَةً (စက်ဘီးစီးသူ)

(၁) لا ………… في البستان .

(၂) لا…………لمن لاأمانة له و لا ………… لمن لاعهد له

(၃) لا ………… في الدين .

(၄) لا ……………… في السوق .

၂။ "لا" لنفي الجنس နှင့် " لا " المشبهة بليس တို့၏ ကွာခြားချက်ကို ဥပမာ နှင့်တကွ ရှင်းပြပါ။

၃။ အောက်ပါဝါကျများတွင် "لا" لنفي الجنس နှင့် " لا " المشبهة بليس တို့ကို ခွဲပြပါ။

(၁) لا ثمرةٌ ناضجةً في البستان. (ناضجة ፡ မှည့်သော)

(၂) لا شجرةَ رمان في البستان .

(၃) لا تلميذٌ غائبا بَلْ تِلْمِيْذَان.

(၄) لا صَدَاقَةٌ دائمةً بغير إخلاص. ( صداقة - ခင်မင်ရင်းနှီးမှု)

(၅) لا خيرَ في وُدِّ امْرِئٍ مُتَقَلِّبٍ (وُدٌّ - ချစ်ခင်မှု ၊ مُتَقَلِّبٌ - ပြောင်းလဲသွားတတ်သောသူ)

## သင်ခန်းစာ (၁၃)

## منصوبات အကြောင်း

نَصْبٌ ( ـَـً ) ပေးခံရသော اسم များကို منصوبات ဟု ခေါ်ဆိုသည်။
၎င်းတို့မှာ (၁၂) မျိုးရှိပါသည်။

(၁) مفعول به (၂) مفعول مُطْلَقٌ
(၃) مفعول فِيْهِ (၄) مفعول له
(၅) مفعول معه (၆) حال
(၇) تَمْيِيْزٌ (၈) مُسْتَثْنٰى
(၉) خبر"كان" وأخواتها (၁၀) اسم"إن" وأخواتها
(၁၁) خبر"ما" و "لا" المشبهتين بـ"ليس" (၁၂) اسم "لا" لنفي الجنس

## (၁) مفعول به – အကြောင်း

အလုပ်သက်ရောက်သော اسم ကို مفعول به ဟုခေါ်သည်။

ဥပမာ - أَكَلَ طَالِبٌ خُبْزًا (ကျောင်းသားသည် မုန့်(၁) ခုကို စားခဲ့သည်။ )

فعل ، فاعل ، مفعول به ( مفعول به ဖြစ်သော خبزا သည် فاعل ဖြစ်သော طالب ၏ စားခြင်းခံရသည်။)

مفعول به ၏အမျိုးအစားများ ……

مفعول به သည် နှစ်မျိုးရှိသည်။

(၁) ظاهر (၂) مضمر

၁။ (ظاهر) مفعول به ဆိုသည်မှာ ضمير မဟုတ်သော مفعول به ကို ခေါ်ဆိုသည်။

ဥပမာ - فَتَحَ الْوَلَدُ الْبَابَ (ကလေးသည် တံခါးကို ဖွင့်ခဲ့သည်။)

فعل ، فاعل ، مفعول به (ظاهر)

၂။ (مضمر) مفعول به သည် နှစ်မျိုးရှိသည်။

(၁) متّصل (၂) منفصل

(၁) متّصل သည် (၁၄) မျိုးရှိသည်။ ယင်းတို့မှာ ……

| صيغ الغائب | صيغ المخاطب | صيغ المتكلم |
|---|---|---|
| ضَرَبَهُ | ضَرَبَكَ | ضَرَبَنِي |
| ضَرَبَهُمَا | ضَرَبَكُمَا | ضَرَبَنَا |
| ضَرَبَهُمْ | ضَرَبَكُمْ | |
| ضَرَبَهَا | ضَرَبَكِ | |
| ضَرَبَهُمَا | ضَرَبَكُمَا | |
| ضَرَبَهُنَّ | ضَرَبَكُنَّ | |

ဥပမာ - ضَرَبَــــــــنَا

فعل (هو : فاعل ) — مفعول به (مضمر)

(၂) منفصل သည်လည်း (၁၄) မျိုးရှိသည်။ ယင်းတို့မှာ ……

| صيغ الغائب | صيغ المخاطب | صيغ المتكلم |
|---|---|---|
| إيّاهُ | إيَّاكَ | إيَّايَ |
| إيَّاهُمَا | إيَّاكُمَا | إيَّانَا |
| إيَّاهُمْ | إيَّاكُمْ | |
| إيَّاهَا | إيَّاكِ | |
| إيَّاهُمَا | إيَّاكُمَا | |
| إيَّاهُنَّ | إيَّاكُنَّ | |

مفعول به သည် فاعل ၏ နောက်တွင်လာရှိမည်။သို့သော်အချို့သော ပုံစံများတွင် مفعول به သည် فاعل၏ ရှေ့တွင် လာရန်အရေးကြီးသည်။

(၁) مضمر - ဖြစ်သော مفعول به သည် فعل နှင့် ပူးတွဲ၍လာသောအခါ ။

ဥပမာ نصـــــر ـــــــنـــــي اللّٰهُ

فعل — مفعول به مضمر (مقدم) — فاعل (مؤخر)

أَدَّبَنِى الأستاذُ ။ ၉ أكرمنا اللّٰهُ ။ ၂ أكرمنِي الأ ميرُ ။ ၁

(၂) أسماء الاستفهام (အမေးနာမ်) များဖြစ်ကြသော مَنْ ، ما တို့နှင့် كَمْ တို့သည် مفعول به ဖြစ်သောအခါ။

ဥပမာ - مَنْ رأيتَ؟ ( မည်သူ့ကို အသင်တွေ့ခဲ့သနည်း)

اسم الاستفهام مفعول به(مقدم) — فعل — فاعل مؤخر

(၃) جملة فعلية တွင် ဦးစွာ فعل ထို့နောက် فاعل ၊ အကယ်၍ فعل သည် متعدٍ ဖြစ်ပါက مفعول به သည်အဆုံးတွင်လာသည်။

ဥပမာ - ذَهَبَ طَالِبٌ. (فعل ، فاعل) قَرَأَ تلميذٌ الدرسَ. (فعل ، فاعل ، مفعول به)

(၄) فاعل နှင့် مفعول به တို့ ကြားတွင် ရောထွေးမှုမရှိပါက مفعول به သည် فاعل ၏ အလျှင် လာနိုင်သည်။ ထို့အတူ مفعول به သည် فعل ၏ ရှေ့တွင်လည်း လာနိုင်သည်။

فاعل ၏ အလျှင် مفعول به လာရှိသောဥပမာ - بَنَى الْبَيْتَ إِبْرَاهِيْمُ (فعل ، مفعول به (مقدم) ، فاعل (مؤخر))

فعل ၏ အလျှင် مفعول به လာရှိသောဥပမာ - ﴿ إِيَّا كَ نَعْبُدُ ﴾ (مضاف + مضاف إليه ← مفعول به (مقدم) ، فعل ، فاعل (نحن))

(၅) သို့သော် فاعل နှင့် مفعول به ၏ ကြားတွင် ရောထွေးသွားနိုင်ပါက فاعل ကို مفعول به ၏ရှေ့တွင် ထားရန်အရေးကြီးသည်။

ဥပမာ - ضَرَبَ مُوْسٰى عِيْسٰى (فعل ، فاعل ، مفعول به) (မူစာသည် အီစာကို ရိုက်ခဲ့သည်။)

(၆) စကားအဆက်အစပ်ကိုကြည့်၍ فعل နှင့် فاعل ကို နေရာ(၃)ခုတွင် ဖြုတ်ချပြီး مفعول به ကိုသာဖော်ပြခြင်းပိုင်သည်။

(၁) إغراء (၂) تحذير (၃) اختصاص

(၁) إِغْرَاءٌ ဆိုသည်မှာ လှုံ့ဆော်ခြင်း၊ ဆော်ဩခြင်း ဟူ၍ဖြစ်သည်။

ဥပမာ الاجتهادَ ! الاجتهادَ ! (ကြိုးစား ကြိုးစား)

၎င်း၏ မူရင်းမှာ اِلْزَمْ الاجتهادَ ‘ ကြိုးစားအားထုတ်ခြင်းကို လက်မလွှတ်နဲ့ ’ ဖြစ်သည်။ (فعل الأمر (أنت)فاعل ، مفعول به)

(၂) تحذير ဆိုသည်မှာ ရှောင်ရန်သတိပေးခြင်း၊ ကာကွယ်စေခြင်း ဖြစ်သည်။

ဥပမာ - اَلسَّيَّارَةَ ! السَّيَّارَةَ ! ( ကား ကား )

၎င်း၏ မူရင်းမှာ اِتَّقِ السَّيَّارَةَ (ကားကိုရှောင်ပါ) ဖြစ်သည်။ (فعل الأمر (أنت)فاعل ، مفعول به)

(၃) اختصاص ဆိုသည်မှာ လေးနက်စေရန်အတွက် အထူးပြုတင်ပြခြင်းဖြစ်သည်။

ဥပမာ - إِنَّا طَلَبَةَ الْعِلْمِ نُكْرِمُ الأَسَاتِذَةَ.

(ကျွန်ုပ်တို့ကျောင်းသားများသည်သာ ဆရာများကိုဂုဏ်ပေးလေးစားကြသည်။)

အထက်ပါဥပမာကို လေ့လာပါက طَلَبَةَ သည် الفعل المحذوف (نَخُصُّ) ၏ مفعول به ဖြစ်သောကြောင့် منصوب ဖြစ်နေသည်။




## مفعول به (၂) ခုလိုအပ်သော فعل များ

အချို့သော فعل များသည် مفعول به (၂) ခု လိုအပ်သည်။ ယင်းတို့မှာ …… أَفْعَالُ الْقُلُوبِ (စိတ်နှလုံးနှင့်သက်ဆိုင်သောကြိယာ)များဖြစ်ကြသည်။ ထို فعل များမှာ (၇) လုံးရှိသည်။

زَعَمَ - وَجَدَ - رَأَى - عَلِمَ - خَالَ - ظَنَّ - حَسِبَ

ထို فعلများမှ (၃) ခုသည် သံသယအတွက်ဖြစ်ပြီး၊ ဒုတိယ(၃) ခုမှာ ယုံကြည်မှုအတွက်ဖြစ်သည်။ (၁) ခုမှာ နှစ်မျိုးလုံးအတွက်ဖြစ်သည်။

၁။ شَكٌّ (သံသယ)အတွက်လာသော فعل (၃)ခုတို့မှာ ……

(၁) حَسِبَ ၏ ဥပမာ - حَسِبْتُ زَيْدًا فَاضِلًا

فعل فاعل — مفعول به (١) — مفعول به (٢)

(ဇိုက်ဒ်သည် ဂုဏ်ရှိသူတစ်ယောက်ဖြစ်သည်ဟု ကျွန်တော် ထင် သည်။)

(၂) ظَنَّ ၏ ဥပမာ - ظَنَنْتُ بَكْرًا نَائِمًا

(ဘက်ရ်သည် အိပ်ပျော်နေသည်ဟု ကျွန်တော် ထင် သည်။)

(၃) خَالَ ၏ ဥပမာ - خِلْتُ خَالِدًا قَائِمًا

(ခါလစ်ဒ်သည် ရပ်နေသည်ဟု ကျွန်တော် ထင် သည်။)

မှတ်ချက်။ ။ ظَنَّ သည် اَلظِّنَّةُ စွပ်စွဲခြင်း၏ အဓိပ္ပါယ်ဖြင့်သုံးလျှင် ဒုတိယ مفعول به မလိုအပ်တော့ပါ။

ဥပမာ - ظَنَنْتُ زَيْدًا

(ကျွန်ုပ် ဇိုက်ဒ်ကို စွပ်စွဲ ခဲ့သည်။)

၂။ يقينٌ ယုံကြည်မှုအတွက် လာသော فعل (၃)လုံးမှာ. . .

(၁) عَلِمَ ၏ ဥပမာ - عَلِمْتُ زَيْدًا أَمِينًا

( ဇိုက်ဒ်သည် သမာဓိရှင်ဖြစ်သည်ဟု ကျွန်ုပ် ယုံကြည်သည်။)

(၂) رَأَى ၏ ဥပမာ - رَأَيْتُ خَالِدًا فَاضِلاً

(ခါလိဒ်သည် ဂုဏ်ရှိသူဖြစ်သည်ဟု ကျွန်ုပ် ယုံကြည် သည်။)

(၃) وَجَدَ ၏ ဥပမာ - وَجَدْتُ المَسجدَ جَميلاً

(ဗလီသည်လှပသည်ဟု ကျွန်ုပ် ယုံကြည်သည်။)

၃။ အဓိပ္ပါယ်နှစ်မျိုးစလုံးအတွက် အသုံးပြုသော နောက်ဆုံးတစ်လုံးမှာ - زَعَمَ ဖြစ်သည်။

(၁)(لليقين) زَعَمَ ၏ ဥပမာ - زَعَمْتُ اللّٰهَ غَفُوْرًا

(အလ္လာဟ်အရှင်မြတ်သည် အလွန်တရာခွင့်လွှတ်တော်မူသောအရှင်ဖြစ်ကြောင်း ကျွန်ုပ် ယုံကြည်ပါသည်။)

(၂) (للشك) زَعَمَ ၏ ဥပမာ - زَعَمْتُ الطّالبَ كَاذِبًا .

(ကျောင်းသားသည် မုသားပြောသူဖြစ်ကြောင်း ကျွန်တော် သံသယရှိသည်။)

## လေ့ကျင့်ခန်း

၁။ مفعول به ဆိုသည်မှာ အဘယ်နည်း။ အသင်တို့၏ သင်ခန်းစာထဲမှ مفعول به (၅) ခုထုတ်ပြပါ။

၂။ အောက်ပါတို့မှ إغراء နှင့် تحذير တို့ကို ခွဲပြပါ။

(၁) الصدقَ (၂) العملَ العملَ (၃) الجدَّ والعزمَ (၄) السيّارةَ السيّارةَ

၃။ اختصاص ဟူသည်မှာ အဘယ်နည်း၊ အောက်ပါ جملة တို့၏ ပေါင်းစပ်နည်းကို ဖော်ပြပါ။

(၁) إنّا المسلمين نعبد اللّٰه . (၂) إِنِّيْ طَالبَ الْعِلْمِ أُحِبُّ الْعِلْمَ.

၄။ အောက်ပါဝါကျများကို إعراب တပ်၍ မြန်မာဘာသို့ ပြန်ဆိုပါ။

(၁) جمع الولد الأوراق . (၂) كسر خالد الإبريق .

(၃) ركب زيد السيارة . (၄) أكل كمثرى يحيىَ.

၅။ အောက်ပါကွက်လပ်များတွင် သင့်လျော်သော စကားလုံးများကို ဖြည့်ပြီး ဘာသာပြန်ဆိုပါ။

(၁) كتب جميل ............ . (၂) يَزْرَعُ الفلاح ............ .

(၃) ساعد الأغنياء ............ . (၄) صنعت أمي ............ .

၆။ လက်သည်းကွင်းထဲတွင် ပေးထားသည့် اسم (၂) ခုအား فاعل နှင့် مفعول به ပြုလုပ်၍ ဝါကျဖွဲ့ပါ။

(၁) ( الطالب ، الرسالة) (၂) (الأسد ، البقرة)

(၃) (اللحم ، الجزار) (၄) (المدرس ، التلميذ)

၇။ فعل ، فاعل ، مفعول به တို့ဖြင့် ပေါင်းစပ်ထားသော جملة فعلية ( ၄) ခု ရေးပါ။

၈။ فعل ، فاعل ، مفعول به တို့ဖြင့် ပေါင်းစပ်ထားသော جملة اسمية (၄) ခု ရေးပါ။



## (၂) مفعول مطلق – အကြောင်း

فعل တစ်ခု၏နောက်တွင် အဓိပ္ပါယ်လေးနက်စေရန်လာရှိသော ထို فعل ၏ مصدرကို مفعول مطلق ဟုခေါ်သည်။

ဥပမာ - جَلَسْتُ جُلُوْسًا. (ကျွန်တော်ကောင်းကောင်းထိုင်ခဲ့သည်။)

فعل فاعل مفعول مطلق

**مفعول مطلق**၏ ပုံစံ (၃) မျိုးရှိသည်။

(၁) مُؤَكِّدٌ لِلْفِعْلِ (၂) مُبَيِّنٌ لِلنَّوْعِ (၃) مُبَيِّنٌ لِلْعَدَدِ

(၁)مؤ كّد للفعل - ကြိယာကို အလေးပေး (အထူးပြုသော) အနေဖြင့် လာရှိမည်။

ဥပမာ - كَلَّمَ اللّٰهُ مُوْسٰى تَكْلِيْمًا

فعل فاعل مفعول به مفعول مطلق (مؤ كد للفعل)

(အလ္လာဟ်အရှင်မြတ်သည် (နဗီတမန်တော်)မူစာနှင့် အထူး စကားပြောဆိုတော်မူခဲ့လေသည်။)

(၂)مُبَيِّنٌ لِلنَّوْعِ - ကြိယာတွင်ပါရှိသော အဓိပ္ပါယ်ပုံစံကို ပြဆိုသည့်အနေဖြင့်လာရှိသည်။

ဥပမာ - قَرَأَ أَحْمَدُ الدَّرْسَ قِرَاءَةَ فَاهِمٍ

فعل فاعل مفعول به مفعول مطلق (مبين للنوع) مضاف + مضاف إليه

(အဟ်မဒ်သည် သင်ခန်းစာကို နားလည်သူ၏ ဖတ်ပုံမျိုးနှင့်ဖတ်ခဲ့သည်။)

(၃)مُبَيِّنٌ لِلْعَدَدِ - ကြိယာ၏အကြိမ် အရေအတွက်ကို ပြသသောအနေဖြင့်လာရှိသည်။

ဥပမာ - ضَرَبَ الْأُسْتَاذُ التِّلْمِيْذَ ضَرْبَةً .

فعل فاعل مفعول به مفعول مطلق (مبين للعدد)

(ဆရာသည်ကျောင်းသားကို 'တစ်ချက်' ရိုက်ခဲ့သည်။)

ضَرَبَ الْأُسْتَاذُ التِّلْمِيْذَ ضَرْبَتَيْنِ.

(ဆရာသည်ကျောင်းသားကို 'နှစ်ချက်' ရိုက်ခဲ့သည်။)

ضَرَبَ الْأُسْتَاذُ التِّلْمِيْذَ ضَرَبَاتٍ.

( ဆရာသည်ကျောင်းသားကို 'အချက်များစွာ' ရိုက်ခဲ့သည်။)

ကျက်မှတ်ရန်

(၁) مفعول مطلق သည် မိမိအလျှင်ရှိသော فعل ၏مصدر ဖြစ်ပါက مفعول مطلق لفظىّ ဟုခေါ်သည်။ ဥပမာ - جَلَسْتُ جُلُوْسًا.

(၂) مفعول مطلق သည် မိမိအလျှင်ရှိ فعل နှင့် အဓိပ္ပါယ်တူဆင်သော فعلတစ်ခု၏ مصدر ဖြစ်ပါက مفعول مطلق مَعْنَوِيٌّ ဟုခေါ်သည်။

ဥပမာ - جَلَسْتُ قُعُوْدًا .

(၃) مفعول مطلق ကို ဖြုတ်ချ၍ ၎င်း၏ صفة ကိုသာ ဖော်ပြခြင်းမျိုးလည်း ရှိသည်။

ဥပမာ - اُذْكُرُوْا اللّٰهَ كَثِيْرًا

၎င်း၏ မူရင်းမှာ - اُذْكُرُوا اللّٰهَ ذِكْرًا كَثِيْرًا

(၄) مفعول مطلق သည် مشار إليه အဖြစ်နှင့်လည်း လာရှိတတ်သည်။

ဥပမာ - قَالَ ذٰلِكَ الْقَوْلَ

قَالَ = فعل + فاعل ؛ ذٰلِكَ = إشارة ؛ الْقَوْلَ = مشار إليه (مفعول مطلق)

(ထိုသူသည် ထိုစကားမျိုးကိုပြောခဲ့သည်။ )

(၅) بعض နှင့် كلّ တို့သည် مفعول مطلق ဘက်သို့ إضافة ဖြစ်ပြီး လာတတ်သည်။

ဥပမာ - أعرف كلّ المعرفة (ကျွန်တော်အလုံးစုံသိသည်။)

أعرف = فعل + فاعل ؛ كلّ = مضاف ؛ المعرفة = مضاف إليه ؛ مضاف + مضاف إليه = مفعول مطلق

آخَذَ نِي الْمُدِيْرُ بَعْضَ الْمُؤَاخَذَةِ.

آخَذَ = فعل ؛ نِي = مفعول به (مقدم) ؛ الْمُدِيْرُ = فاعل ؛ بَعْضَ = مضاف ؛ الْمُؤَاخَذَةِ = مضاف إليه ؛ مضاف + مضاف إليه = مفعول مطلق

(ကျောင်းအုပ်ဆရာကြီးသည် ကျွန်ုပ်အား အနည်းငယ်အရေးယူခဲ့သည်။)

(၆) مفعول مطلق ၏ فعل နှင့် فاعل (၂) ခုလုံးကို ဖြုတ်ချခြင်းမျိုးလည်းရှိသည်။

ဥပမာ - صَبْرًا (သီးခံမျိုသိပ်ပါ။)

၎င်း၏ မူရင်းမှာ- اِصْبِرْ صَبْرًا ဖြစ်သည်။

اِصْبِرْ = فعل + فاعل ؛ صَبْرًا = مفعول مطلق



## လေ့ကျင့်ခန်း

၁။ مفعول مطلق ဆိုသည်မှာအဘယ်နည်း။ ဥပမာ (၃) ခုပေး၍ရှင်းပြပါ။

၂။အောက်ဖော်ပြပါနာမ်များအား مفعول مطلق အဖြစ် ပြုလုပ်၍ ဝါကျဖွဲ့ပြပါ။

خلق　　استغفار　　إشراق　　سجدتان　　نوم　　قيام

ကျက်မှတ်ရန် စကားလုံးများ

جَهْرٌ ကျယ်လောင်စွာ　　اِنْتَصَرَ အနိုင်ရခြင်း　　عَزِيْزٌ ဂုဏ်သရေရှိသော

دافع ကာကွယ်ခြင်း　　الْجُنْدِيُّ စစ်သား　　اَلْوَطَنُ အမိမြေ

اَلْأَبْطَالُ သူရဲကောင်းများ　　مَرِيْئٌ အနံ့အရသာနှင့်ပြည့်စုံသော

هَنِيْئٌ နှစ်လိုဖွယ်ကောင်းသော / သက်သောင့်သက်သာရှိသော

دَارَ ဝဲခြင်း　　اَلْفِضَاءُ ဝေဟင်　　دَوْرَةٌ တစ်ပတ်

أَنْفَقَ သုံးစွဲခြင်း　　رِفْقٌ နူးညံ့သိမ်မွေ့စွာဆက်ဆံခြင်း　　عَطْفٌ ကြင်နာခြင်း

اِلْتَفَتَ လည်ပြန်ကြည့်ခြင်း　　ذَوُوْ الْبَأْسَاءِ အင်အားရှင်များ　　نَعْمَاءُ စည်းစိမ်တော်များ

၃။အောက်ပါဝါကျများကို إعراب တပ်ပြီးနောက် ယင်းတို့မှ مفعول مطلق များကို အမျိုးအစားနှင့် တကွ ရေးသားဖော်ပြပါ။ထို့နောက် အဓိပ္ပါယ်ပြန်ဆိုပါ။

(၁) نادى سليم جهرا　　(၂) انتصر الجيش انتصارًا

(၃) اللّٰهمّ نصرا عزيزا　　(၄) دافع الجندىّ عن الوطن دفا ع الأبطال

(၅) دارت الطائرة فى الفضاء دورتين　　(၆) لا تنفق كلّ الإ نفاق

(၇) هنيئا مريئا　　(၈) ضربته ثلاث ضربات

(၉) التفتَ التفاتة الأسد　　(၁၀) الحمد للّٰه على نعمائه و شكرا

(၁၁) يحب العاقل وطنه كلّ الحب　　(၁၂) قاتل الأ مير المقتول شرّ قتلة

(၁၃) إن الخطيب قد وعظ القوم أفضل وعظ

(၁၄) رفقا على الضعفاء وعطفا على ذوي البأساء

## (၃) مفعول فيه – အကြောင်း

အချိန် (သို့) နေရာ တစ်ခုခုတွင် အလုပ်ဖြစ်ပေါ်ကြောင်းကို ဖော်ပြသော إسم ကို مفعول فيه ဟုခေါ်သည်။

ဥပမာ - . قَرَأْتُ الدَّرْسَ صَبَاحاً

(قَرَأْتُ = فعل + فاعل ، الدَّرْسَ = مفعول به ، صَبَاحاً = مفعول فيه (للزمان))

(ကျွန်တော်သည် နံနက်အချိန်တွင် သင်ခန်းစာကို ဖတ်ခဲ့သည်။)

قَرَأْتُ الدَّرْسَ أَمَامَ الْمُعَلِّمِ.

(قَرَأْتُ = فعل + فاعل ، الدَّرْسَ = مفعول به ، أَمَامَ = مضاف + الْمُعَلِّمِ = مضاف إليه = مفعول فيه (للمكان))

(ကျွန်တော်သည်ဆရာ၏ရှေ့တွင်သင်ခန်းစာကို ဖတ်ခဲ့သည်။)

**مفعول فيه သည် အချိန်နှင့် နေရာကို ဖော်ပြရာတွင် (၂) မျိုးရှိသည်။**

(၁) မတိကျစွာ ဖော်ပြခြင်း (၂) တိကျစွာ ဖော်ပြခြင်း

၁။မတိကျစွာ ဖော်ပြသော مفعول فيه ၏ ဥပမာ -

قَرَأْتُ الدَّرسَ أَمَامَ المُدَرِّسِ -

(ကျွန်တော်သည် သင်ခန်းစာကို ဆရာ၏'ရှေ့တွင်'ဖတ်ခဲ့သည်။)

**အချိန်နှင့် နေရာကို တိကျစွာ မဖော်ပြသော စာလုံးများမှာ ……**

| | | |
|---|---|---|
| بَيْنَ يَدَيَّ - ရှေ့တွင် | بَعْدُ - နောက်တွင် | قَبْلُ - အလျှင် |
| تَحْتُ - အောက်တွင် | فَوْقُ - အပေါ်တွင် | غَرْبٌ - အနောက်အရပ် |
| أَمَامُ - ရှေ့တွင် | إِزَاءٌ - ယှဉ်လျက် | شَرْقٌ -အရှေ့အရပ် |
| وَرَاءٌ - နောက် | حِذَاءٌ - တည့်တည့်တွင် | بُرْهَةٌ - အချိန်တစ်ခု |
| حِيْنٌ - အချိန်ကာလ | دَهْرٌ - ခေတ်ကာလတစ်ခု | لَحْظَةٌ - အချိန်တစ်ပိုင်း |
| تُجاهَ/تِلْقَاءَ မျက်နှာချင်းဆိုင် | | |

**အချို့စကားလုံးများ၏ ဥပမာများ ……**

قَعَدَ مُحَمَّدٌ لَحْظَةً . - မိုဟမ္မဒ်သည် 'ခဏတာ'ထိုင်ခဲ့သည်။

سِرْتُ الْيَوْمَ بُرْهَةً. - ကျွန်တော်သည် ယနေ့ 'တစ်ချိန်' သွားခဲ့သည်။

قَعَدَ حَامِدٌ إِزَاءَ خَالِدٍ. - ဟာမိဒ်သည် ခါလိဒ်နှင့် 'တည့်တည့်တွင်' ထိုင်ခဲ့သည်။

قَعَدَ طَالِبٌ تِلْقَاءَ المُدَرِّسِ. - ကျောင်းသားသည် ဆရာနှင့် 'မျက်နှာချင်းဆိုင်' ထိုင်ခဲ့သည်။

قَامَ الإِمَامُ بَيْنَ يَدَيِ الْمُقْتَدِيْ. - အေမာမ်သည် မွတ်က်သဒီ၏ 'ရှေ့တွင်' ရပ်ခဲ့သည်။

(၂)နေရာကို တိကျစွာ ဖော်ပြခြင်း

နေရာကို အတိအကျဖော်ပြသောနာမ်များမှာ ...... فَصْلٌ ، مسجد ، حجرة ، حديقة ......

ယင်းနာမ်များသည် منصوب မဖြစ်ဘဲ حروف جارة တစ်ခုခုဝင်ရောက်ကာ مجرور အဖြစ်နှင့်သာ လာရှိမည်။

ဥပမာ - قَرَأْتُ فِيْ الفَصْلِ ، جَلَسْتُ فِيْ الدَّارِ ، صَلَّيْتُ فِيْ الْمَسْجِدِ

ကျက်မှတ်ရန်

☆ ظُـرُوْفٌ ( အချိန်/နေရာပြနာမ် ) များနှင့်အတူ لام التـعـريف (သို့) حــرف الجـر တို့တွဲလျက် လာတတ်သည်။

ဥပမာ - اَلسَّمَاءُ فِيْ الْفَوْقِ (မိုးကောင်းကင်သည်အပေါ်တွင်ရှိသည်။)

لَا تَصُمْ الدَّهْرَ (အသင် အမြဲ ရိုဇာမထားနှင့်။)

☆ شمال - يـمين တို့ကို عن ဖြင့်လည်း အသုံးပြုကြသည်။

ဥပမာ - عَنِ الْيَمِيْنِ وَعَنِ الشِّمَالِ (ဝဲဘက်ယာဘက်တွင်)

☆အရပ်မျက်နှာတို့နှင့်အတူ فـي ကို သုံးစွဲပြီး ကျန် ظروف များနှင့်အတူ من ကို (အပို)သုံးသည်။

ဥပမာ - اَلْبَحْرُ فِيْ جُنُوْبِ الْهِنْدِ

(ပင်လယ်သည် အိန္ဒိယနိုင်ငံ၏တောင်ဘက်တွင်ရှိသည်။)

تَجْرِيْ مِنْ تَحْتِهَا الأَنْهَارُ

(ထိုဂျန္နသ်၏ အောက်တွင် စမ်းချောင်းများစီးဆင်းလျှက်ရှိသည်။)



## လေ့ကျင့်ခန်း

၁။المفعول فيه ဆိုသည်မှာ အဘယ်နည်း။ ဥပမာ (၅)ခုအသင်တို့သင်ခန်းစာထဲမှ ထုတ်နှုတ်ပြပါ။

၂။အောက်ပါနာမ်များကို ပြည့်စုံသောဝါကျ၌ مفعول فيه အဖြစ်အသုံးပြုပြပါ။

( صيف ، نهار ، ليل ، خلف ، شهر ، دقيقة ، الدار ، عند ، وسط )

၃။အောက်ပါကွက်လပ်များတွင် သင့်လျော်သော ظرف زمان နှင့် ظرف مكان များကို ဖြည့်ပါ။

(၁) تُمْطِرُ السَّمَاءُ ............ . (၂) وَقَفَ القِطَارُ ............ . (၃) تَغِيْبُ الشَّمْسُ ............ .

(၄) تُؤْخَذُ الْمَصَابِيْحُ ............ . (၅) قَعِيْدٌ ............ عَنِ الْيَمِيْنِ وعَنِ

၄။အောက်ပါစာပိုဒ်မှ ظرف زمان နှင့် ظرف مكان တို့ကို သတ်မှတ်ပြီး အဓိပ္ပါယ်ပြန်ဆိုပါ။

سَافَرْنَا صَبَاحًا مِنْ "مَانْدَلِي" إِلىٰ "يَانْكونْ"، وَوَصَلْنَا إِلىٰ "يانْكون" قَبْلَ الْمَغْرِبِ، فَإِذَا نَزَلْنَا مِنَ السَّيَّارَةِ قَصَدْنَا مَطْعَمًا، فَجَلَسْنَا بُرْهَةً في الْمَطْعَمِ، ثُمَّ شَاهَدْنَا الْمَرْكَزَ ، وَزُرْنَا عُلَمَاءَ الْمَرْكَزِ، فَمَكَثْنَا فِيْهِ يَوْمَيْنِ ، ثُمَّ رَجَعْنَا إِلىٰ "مَانْدلِيْ" وَنَحْنُ في غَايَةِالرَّاحَةِ وَالْفَرَحِ.

## (၄) مفعول له – အကြောင်း

အလုပ်ဖြစ်ပေါ်ရခြင်း၏ "အကြောင်းခံ"ကို ပြသပေးသော منصوب اسم ကို مفعول له ဟုခေါ်သည်။ ၎င်းကို مَفْعُوْلٌ لأَجْلِه ဟုလည်းခေါ်သည်။

ဥပမာ - قُمْتُ إكراماً لِلْأُسْتَاذِ

فعل فاعل مفعول له جار مجرور

(ကျွန်တော်သည်ဆရာ့ကို'ဂုဏ်ပေးရန်အတွက်'မတ်တပ်ရပ်ခဲ့သည်။)

فَرَرْتُ مِنَ الْحَرْبِ جُبْنًا

(ကျွန်တော်သည် စစ်ပွဲမှ 'သူရဲဘောကြောင်သောကြောင့်' ထွက်ပြေးခဲ့သည်။)

**مفعول له ဖြစ်ရန်အတွက် စည်းကမ်းချက်များ ......**

(၁) مفعول له သည် مصدر ဖြစ်ရမည်။

(၂) مفعول له သည် نكرة ဖြစ်ရမည်။

(၃) مفعول له သည် မိမိအလျှင်ရှိ فعل အတွက် အကြောင်းခံဖြစ်ရမည်။

**مفعول له ၏အမျိုးအစားများ**

(၁) مفعول لهသည် مفرد ، نكرة ဖြစ်ရမည်။ ال နှင့် اضافة မရှိရ။ ဤပုံစံကို مفعول له صريح ဟုခေါ်သည်။

ဥပမာ - قُمْتُ إِكْرَامًا لَلْمُدَرِّسِ

فعل فاعل مفعول له (نكرة ، مفرد) جار مجرور

(ကျွန်တော်သည် ဆရာကို 'ဂုဏ်ပေးရန်အတွက်' ထခဲ့သည်။)

(၂) مفعول له သည် ' لام التعليل ' နှင့် တွဲလျှက်လာရှိနိုင်သည်။ ထိုအချိန်တွင် مفعول له သည် مجرور ဖြစ်မည်။ ဤပုံစံကို مفعول له غير صريحဟုခေါ်သည်။

ဥပမာ...... هَاجَرْتُ الْوَطَنَ لِـ طَلَبِ الْعِلْمِ

فعل فاعل مفعول به لام التعليل مضاف مضاف إليه (مفعول له غير صريح)

(ကျွန်တော်သည် မွေးမြေရပ်ကို အသိပညာ 'ရှာဖွေရန် အတွက်' စွန့်ခွာခဲ့သည်။)

(၃) مفعول له ဖြစ်သော مصدر သည် مضاف အဖြစ် လာရှိမည်။ ထိုအခါ منصوب (သို့) مجرور နှစ်မျိုးလုံးလာရှိနိုင်သည်။

ဥပမာ...... هَرَبْتُ خَوْفَ الْقَتْلِ

هَرَبْتُ لِخَوْفِ الْقَتْلِ

(ကျွန်တော်သည် အသတ်ခံရမည်ကို စိုးရိမ်'သောကြောင့်'ထွက် ပြေးခဲ့သည်။)

မှတ်ချက် ။ ။ مفعول لهသည် မိမိ عامل ၏ အလျင်လာနိုင်သည်။ ထိုအခါ مفعول له သည် منصوب(သို့မဟုတ်) مجرور နှစ်မျိုးလုံးဖြစ်နိုင်သည်။

ဥပမာ ...... رغبةً فِيْ الْعِلْمِ أَتَيْتُ

مفعول له (مقدم) جار مجرور فعل فاعل

(အိလ်မ်ပညာကို နှစ်သက် 'သောကြောင့်' ကျွန်တော်လာခဲ့သည်။)

لِـ لتِّجَارَةِ سَافَرْتُ

جار مجرور (مفعول له مقدم) فعل فاعل

(စီးပွားရေး'အတွက်' ကျွန်တော်ခရီးထွက်ခဲ့သည်။)



## လေ့ကျင့်ခန်း

၁။ مفعول له ဆိုသည်မှာ အဘယ်နည်း? ဥပမာများနှင့်တကွ ရှင်းပြပါ။

၂။ مفعول له ပါသော جملة (၅)ခုကို ရေးပြပါ။

၃။အောက်ဖော်ပြပါ مصدر များကို مفعول له အဖြစ် ဝါကျများ၌အသုံးပြုပြပါ။

(က) حبّا (ခ) احتراما (ဂ) رجاءً (ဃ) طلبا (င) دفعا

၄။ အောက်ပါဝါကျများမှ مفعول له တို့ကို အမျိုးအစားနှင့်တကွဖော်ပြပြီး မြန်မာဘာသာ သို့ပြန်ဆိုပါ။

**ကျက်မှတ်ရန် ခက်ဆစ်များ**

مُطْرِقٌ - ခေါင်းငုံ့ခြင်း مُرْتَعِدٌ - တုန်တုန်ရီရီဖြစ်ခြင်း مُبْتَعِدٌ - ဝေးစွာနေခြင်း

اِبْتِغَاءٌ - ရှာဖွေခြင်း مَعْرُوْفٌ -အကောင်းပြုခြင်း إِجْلاَلاً - ဂုဏ်ပေးလေးစားလျှက်

(၁) سليم مطرق خجلا

(၂) سعيد مرتعد غضبا

(၃) الولد هارب خوفا

(၄) خالد مبتعد عن عمرو حذَرًا من الشرِّ

(၅) قصدتك ابتغاء معروفك

(၆) قمت إجلالا للشّيخ

(၇) ضربت ابني للتأديب

## (၅) مفعول معه – အကြောင်း

مــصــاحبة (ခ) (အတူတကွ၊ နှင့်တကွ) ၏အဓိပ္ပါယ်ပေးသော واو ၏နောက်တွင် လာရှိသော اسم منصوب ကို مفعول معه ဟုခေါ်သည်။ ယင်း واو ကို واو معية (مَعَ ၏ အဓိပ္ပါယ်ပေးသော واو ) ဟု ခေါ်ပါသည်။

ဥပမာ - جَاءَ الطَّالِبُ وَ الْكِتَابَ .

فعل ← جَاءَ ، فاعل ← الطَّالِبُ ، واومعية ← وَ ، مفعول معه ← الْكِتَابَ

(ကျောင်းသားသည် စာအုပ်'နှင့်အတူ'လာခဲ့သည်။)

**مفعول معه ၏သုံးစွဲပုံ (၄) မျိုး**

(၁) فعل لفظي ၏ فا عل နှင့် مفعول معه သည် مصا حبة ဖြစ်လျှက် လာရှိမည်။

ဥပမာ - جَاءَ الطَّالِبُ وَ الْكِتَابَ .

فعل لفظي ← جَاءَ ، فاعل ← الطَّالِبُ ، واومعية ← وَ ، مفعول معه ← الْكِتَابَ

(၂) فعل لفظي ၏ مفعول به နှင့် مفعول معه သည် مصاحبة ဖြစ်လျှက် လာရှိမည်။

ဥပမာ - اِشْتَرَيْتُ الْكِتَابَ وَ الْقَلَمَ.

فعل لفظي ← اِشْتَرَيْ ، فاعل ← تُ ، مفعول به ← الْكِتَابَ ، واومعية ← وَ ، مفعول معه ← الْقَلَمَ

(ကျွန်တော်သည် စာအုပ်ကို ကလောင်'နှင့်အတူ'ဝယ်ခဲ့သည်။)

(၃) فعل معنوي ၏ فاعل နှင့် مفعول معه သည် مصاحبة ဖြစ်လျှက် လာရှိမည်။

ဥပမာ- مَا لَـــكَ وَ زَيْدًا ؟ (အသင်နှင့်ဇိုက်ဒ်ဘာဆိုင်လို့လဲ။)

مَا ← 'ما' استفهامية ← 'تصنع' فعل معنوي (محذوف) ، لَـ ← جار ، كَ ← مجرور ← فاعل ، وَ ← واومعية ، زَيْدًا ← مفعول معه

အထက်ပါ ဥပမာ၏ မူရင်းမှာ - مَا تَصْنَعُ أَنْتَ وَزَيْدًا ؟ ဖြစ်သည်။

(၄) فعل معنوي ၏ مفعول به နှင့် مفعول معه သည် مصاحبة ဖြစ်လျှက်လာရှိမည်။

ဥပမာ- حَسْبُكَ وَ زَيْدًا دِ رْهَمٌ.

حَسْبُ ← مضاف ، كَ ← مضاف إليه (فعل معنوي) بمعنى "كفاك" ← مبتدأ ، وَ ← 'واو' معية ، زَيْدًا ← مفعول معه ، دِ رْهَمٌ ← خبر

အထက်ပါ ဥပမာ၏ မူရင်းမှာ - كَفَاكَ مَعَ زَيْدٍ دِ رْهَمٌ

(အသင် 'နှင့်' ဇိုင်ဒ်နှစ်ဦးလုံးအတွက်ဒိရ်ဟမ်တစ်ပြားလုံလောက်သည်။)

မှတ်သားရန်

واو သည် مـع ၏အဓိပ္ပါယ်မပေးဘဲ عَـطْفٌ အတွက်လာပါက واو ၏ နောက်တွင်လာသော اسـم သည် معطوف ဖြစ်မည်။ مفعول معه မဖြစ်နိုင်ပါ။

ဥပမာ- وَصَلَ مُحَمَّدٌ وَخَالِدٌ (မုဟမ္မဒ် 'ဂ'င်းနောက်'ခါလိဒ်ရောက်ခဲ့သည်။)



## လေ့ကျင့်ခန်း

၁။ مفعول معه ဆိုသည်မှာ အဘယ်နည်း ? ဥပမာနှင့်တကွ ရှင်းပြပါ။

၂။ အောက်ပါဝါကျများတွင်ပါရှိသော واو ၏ အဓိပ္ပါယ်ကိုခွဲခြားပြီးနောက်အဓိပ္ပါယ်ပြန်ပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | | |
|---|---|---|
| كَفٰى - လုံလောက်စေခြင်း | أَوْحٰى - ဝဟီပို့ခြင်း | أَنْجٰى - လွတ်မြောက်စေခြင်း |
| مُذَاكِرٌ - နောက်စာပြန်သူ | يَهُوْدِيٌّ - ဂျူးလူမျိုး | اسْتَوٰى - တပြေးညီဖြစ်သွားခြင်း |
| خَشَبَةٌ - သစ်သားပြား | فُلْكٌ - သင်္ဘော | |

(١) كَفَاكَ وَزَيْداً دِرْهَمٌ

(٢) مَا تَصْنَعُ أنْتَ وَهَاشِماً

(٣) وَأوْحَيْنَا إلٰى إبْرَاهِيْمَ وَإسْحَاقَ.

(٤) فَأَنْجَيْنَاهُ وَمَنْ مَعَهُ فِيْ الْفُلْكِ.

(٥) أَنَا مُذَاكِرٌ وَالْمِصْبَاحَ.

(٦) أنا أَقْتُلُ الْكَافِرَ وَالْيَهُوْدِيَّ.

(٧) اِشْتَرَيْنَا الحِبْرَ والمِحْبَرَةَ.

(٨) سلّمنا عليه وأباه .

(٩) استوى الماء والخشبة

(١٠) مَشَيْتُ والصَّدِيْقَ.



## (၆) حــــال - အကြောင်း

فاعل (သို့) مفعول به တို့၏ အခြေအနေ ကိုဖော်ပြသော اسم منصوب ကို حالဟုခေါ်ဆိုသည်။ အခြေအနေကို ပြခြင်းခံရသည့် فاعل (သို့) مفعول به တို့ကို ذُوْالْحَالِ ဟုခေါ်သည်။

(၁) فاعل ၏အခြေအနေကိုပြသော حال ၏ ဥပမာ ……

جَاءَ الطَّالِبُ مَاشِيًا

فعل | فاعل (ذوالحال) | حال

(ကျောင်းသားသည် လမ်းလျှောက်'လျက်'လာခဲ့သည်။)

(၂) مفعول به - ၏အခြေအနေကိုပြသော حال ၏ ဥပမာ ……

اِشْتَرَيْتُ الدَّجَاجَةَ مَذْبُوْحَةً.

فعل فاعل | مفعول به (ذو الحال) | حال

(ကျွန်တော်သည် ကြက်မကို လည်လှီး'ထားလျက်' ဝယ်ခဲ့သည်။)

(၃) فاعل နှင့် مفعول به နှစ်ခုလုံး၏အခြေအနေကိုပြသော حال ၏ ဥပမာ ……

دَرَّسَ الْأُسْتَاذُ الطَّالِبَ قَاعِدَيْنِ

فعل | فاعل (ذوالحال) | مفعول به (ذو الحال) | حال

(ဆရာသည်ကျောင်းသားကို ထိုင်'လျက်' စာသင်ပေးခဲ့သည်။)

မှတ်သားရန်

(၁) نائب الْفَاعِلِ အတွက်လည်း حال လာနိုင်သည်။

ဥပမာ - يُشْرَبُ الْعَصِيْرُ بَارِدًا

فعل | نائب الفاعل (ذو الحال) | حال

(ဖျော်ရည်ကို အေး'နေချိန်' သောက်ရသည်။)

(၂) حــال သည် جـمـلة اسمية (သို့) جـمـلة فعلية အဖြစ်နှင့်လည်းလာတတ်သည်။ ထိုအခါမျိုး၌ حــال နှင့် ذوالــحــال တို့အကြား رابــط ဆက်စပ်ပေးသော كــلــمة တစ်ခုခုရှိရမည်။ ထို كــلــمة များမှာ واوحالية ၊ قد နှင့် ضمير တို့ဖြစ်ကြသည်။

(က) حـــــــالသည် جـــــمـــــلة اســــمية ဖြစ်ပါက ၎င်း جـــــمـــــلة တွင် واو ယူလာရန်အရေးကြီးပေသည်။ ထို واو ကို واو حالية ဟု ခေါ်သည်။

ဥပမာ - خَطَبَ الطَّالِبُ وَ هُوَ وَاقِفٌ

فعل | فاعل | واو حالية | مبتدأ | خبر (جملة اسمية)

(ကျောင်းသားသည် မတ်တပ်ရပ်'လျက်' တရားဟောခဲ့သည်။)

(ခ) حال သည် جملة فعلية ဖြစ်၍ ماض مثبت ပုံစံဖြင့်လာရှိပါက ယင်း جملة တွင် وا
နှင့် قد နှစ်မျိုးလုံးထည့်ပေးရမည်။

ဥပမာ - خَرَجْتُ وَقَدْ طَلَعَتْ الشَّمْسُ.

(ကျွန်တော်သည်နေထွက်ပြီး'ချိန်'ထွက်ခဲ့သည်။)

(ဂ) حال သည် جملة فعلية ဖြစ်၍ الماضي المنفي ပုံစံဖြင့်လာရှိပါက ယင်း جملة
တွင် وا တစ်လုံးတည်းသာထည့်ပေးရမည်။

ဥပမာ - صَلَّيْتُ الْفَجْرَ وَمَاطَلَعَتِ الشَّمْسُ.

(ကျွန်တော်သည် ဖဂျ်ရ် နမားဇ်ကို နေမထွက်'မီ' ဖတ်ခဲ့သည်။)

(ဃ) حال သည် جملة فعلية ဖြစ်၍ المضارع المثبت ပုံစံဖြင့်လာရှိပါက ယင်း جملة
တွင် ضمير သည်သာ رابط ဖြစ်မည်။ وا နှင့် قد နှစ်မျိုးလုံးထည့်ပေးရန်မလိုပါ။

ဥပမာ - جَاءَ الطِّفْلُ يُبَشِّرُ الْوَالِدَيْنِ.

(ကလေးသည် မိဘနှစ်ပါးကို သတင်းကောင်းပေး'လျက်' လာခဲ့သည်။)

(၃) حال သည် جملة တစ်ခု၌ ကြိမ်ဖန်များစွာ လာရှိတတ်သည်။

ဥပမာ - رَجَعَ مُوْسىٰ إِلىٰ قَوْمِه غَضْبَانَ أَسِفاً

(ဟဇရသ်မူစာသည် မိမိမျိုးနွယ်စုထံသို့ ဒေါသထွက်'လျက်'ဝမ်းနည်းကြေကွဲ'လျက်' ပြန်လှည့်လာခဲ့သည်။)

(၄) حال သည် اسم مشتق -ဖြစ်၍ نكرة ဖြစ်မည်။ ذو الحال သည် များသောအားဖြင့် معرفة
ဖြစ်မည်။

(၅) قرينة (ခေါ်) ဆက်စပ်မှုအား ရည်ညွှန်းပြသသည့်အရာတစ်ခုခုရှိပါက حال ၏အလျင် ရှိသော
جملة ကို ဖြုတ်ချပိုင်သည်။

ဥပမာ - ခရီးသည်အား ဆုမွန်ကောင်းတောင်းပေးသည့်အနေဖြင့် ပြောဆိုကြသည်မှာ ……
سَالِماً غَانِماً

(ငြိမ်းချမ်းစွာ'ဖြင့်' အသင်သွားပါ ၊ အကျိုးအမြတ်များစွာကိုယူဆောင်'လျက်' အသင်ပြန်လာပါ။)

ရင်း၏မူရင်းမှာ - (اِذْهَبْ سَالِماً وَارْجِعْ غَانِمًا) ဟု ဖြစ်သည်။



## လေ့ကျင့်ခန်း

၁။ حال ဆိုသည်မှာ အဘယ်နည်း၊ ဥပမာ (၃) ခုပေး၍ရှင်းပြပါ။

၂။ အောက်ပါဝါကျများမှ حال များကို ထုတ်ပြပါ။ အမျိုးအစားကိုလည်း ရှင်းပြပါ။ ထို့နောက် ဘာသာပြန်ဆိုပါ။

ဥပမာ - سَهِرْتُ والنَّاسُ نَائِمُوْنَ. (လူများအိပ်စက်နေချိန် ကျွန်တော်အိပ်ရေးပျက်ခဲ့သည်။)

والنَّاسُ نَائِمُوْنَ. သည် حال ဖြစ်သည်။

جملة اسمية သည် حال ဖြစ်သည့်အမျိုးအစားဖြစ်သည်။

**ကျက်မှတ်ရန် စကားဆစ်များ**

مَشْدُوْدٌ - တုတ်နှောင်လျက်　　صافيا - ကြည်လင်/သန့်ရှင်းစွာဖြင့်　　عِشَاءٌ - အရှာချိန်

(١) اذكروا الله قياماً وقعوداً .　　(٢) جاء ني زيد راكباً.

(٣) شربنا الماء صافياً　　(٤) ضربت زيداً مشدوداً.

(٥) جاء تنى الطفلة باكيةً ورجعت ضاحكةً.　　(٦) كلّم زيد عمرواً راكبين.

(٧) لقيت عمروا راكبا　　(٨) يوكل اللحم مطبوخًا.

(٩) جاءوا أباهم عشاء يبكون .　　(١٠) وصلت إلى مكة والشمس تطلع.

၃။ အသင်တို့၏ စာသင်ခန်းနှင့် ပတ်သက်ပြီး حال ပါသော جملة (၅) ခုရေးသားပါ။

# (၇) تَمْيِيْزٌ – အကြောင်း

မရှင်းမလင်းဖြစ်နေသောအရာကို ရှင်းလင်းပေးသည့် منصوب اسم ကို تَمْيِيْزٌ ဟုခေါ်သည်။ ၎င်းကို مُمَيِّزٌ ဟုလည်းခေါ်သည်။ မရှင်းမလင်းဖြစ်နေသောအရာကို مُمَيَّزٌ ဟုခေါ်သည်။

ဥပမာ - اِشْتَرَيْتُ عِشْرِيْنَ كِتَابًا

(فعل ، فاعل ، مُمَيَّزٌ ، تَمْيِيْزٌ)

(ကျွန်တော်သည် စာအုပ် (၂၀) အုပ် ဝယ်ခဲ့သည်။)

**تمييز ၏ အမျိုးအစားများ**

تمييز သည်(၂)မျိုးရှိသည်။ ၎င်းတို့မှာ ……

(၁) تَمْيِيْزُ المُفْرَدِ (၂) تَمْيِيْزُ الْجُمْلَةِ

၁။ تَمْيِيْزُ الْمُفْرَدِ ဆိုသည်မှာ مفرد اسم များဖြစ်သော وَزْنٌ (အချိန်အတွယ်)၊ كَيْلٌ (အချင်အတွယ်)၊ مَسَاحَةٌ (အကွာအဝေး)နှင့် عَدَدٌ (အရည်အတွက်) စသည်တို့တွင် ရှိသော မရှင်းမလင်းဖြစ်နေမှုကို ရှင်းလင်းအောင်ပြုပေးသော نكرة اسم ကို ခေါ်သည်။ ၎င်းကို تَمْيِيْزٌ مَلْفُوْظٌ - (စကားလုံးအရ သိရှိရသော تمييز ) ဟုလည်းခေါ်သည်။

ဥပမာ - عِنْدِيْ صَاعٌ تَمْرًا .

(ကျွန်ုပ်ထံတွင် စွန်ပလွံသီး (၁) ဆွာ (၂ပိဿာ၂ဝ/သား)ရှိသည်။)

لِيْ فَرْسَخٌ أَرْضًا.

(ကျွန်ုပ်ထံတွင် ဖရ်စခ်တစ်ခု (၄ကီလိုမီတာပတ်လည်ခန့်) ရှိသော မြေကွက်ရှိသည်။)

رَأَيْتُ أَحَدَ عَشَرَ كَوْكَبًا.

(ကျွန်တော်သည် ကြယ်စင်(၁၁)လုံးကို မြင်တွေ့ခဲ့သည်။)

၂။ تَمْيِيْزُ الْجُمْلَةِ ဆိုသည်မှာ جملة တစ်ခုတွင်ရှိသော မရှင်းလင်းမှုကို ရှင်းပေးသော نكرة اسمကို ခေါ်သည်။ ၎င်းကို تمييز مَلْحُوْظٌ - ဝါကျအရ (အဓိပ္ပါယ်သဘောတရားအရ) သိရှိလိုက်ရသော تمييز ဟုလည်းခေါ်သည်။

ဥပမာ - طَابَ زَيْدٌ نَفْسًا .

(ဇိုင်ဒ်သည် စိတ်ဓါတ်ရေးရာတွင် သန့်စင်မွန်မြတ်သည်။)

မှတ်သားရန်

(၁) وزن ၊ كيل နှင့် مساحة တို့၏ تمييز အား إضافة အရ مَجْرُوْرٌ အဖြစ်သော်လည်းကောင်း၊ الجرّ حرف ဖြစ်သော مِنْ နှင့်တွဲ၍သော်လည်းကောင်း كسرة ပေးခြင်းပိုင်သည်။

ဥပမာ - اِشْتَرَيْتُ صاعَ تَمْرٍ أَوْ اِشْتَرَيْتُ صَاعًا مِنْ تَمْرٍ.

(၂) تمييز العدد - ကိန်းဂဏန်းတို့၏ تمييز သည် (၄) ဖွဲ့ ရှိသည်။

(က) (၃) မှ (၁၀) အထိရှိသော ကိန်းဂဏန်းတို့၏ تمييز သည် مركب إضافي ပုံစံဖြင့်လာရှိပြီး مجرور ဖြစ်မည်။ ထို့နောက် تمييز သည် جمع လည်းဖြစ်မည်။ ယင်းကိန်းဂဏန်းကို عَدَدٌ ဟုခေါ်ပြီး၊ تمييز ကို معدود ဟုခေါ်မည်။

ထို့အတူ ဤပုံစံ၌ عدد နှင့် معدود သည် مذكر နှင့် مؤنث ဖြစ်ခြင်းတို့တွင် ဆန့်ကျင်ဘက်ဖြစ်မည်။

ဥပမာ - ثَلَاثَةُ رِجَالٍ
ثَلَاثَةُ ← مميَّز (عدد ـ مؤنث)
رِجَالٍ ← تمييز (معدود ـ جمع ـ مذكر)

ثَلَاثُ نِسَاءٍ
ثَلَاثُ ← مميَّز (عدد ـ مذكر)
نِسَاءٍ ← تمييز (معدود ـ جمع ـ مؤنث)

(ခ) (၁၁) မှ (၉၉) အထိရှိသော ကိန်းဂဏန်းတို့၏ تمييز သည် مفرد منصوب ဖြစ်မည်။ သို့သော် ကွားခြားချက်မှာ - (၁၁) နှင့် (၁၂) တို့၏ အစိတ်အပိုင်းနှစ်ခုလုံးသည် معدود နှင့် مذكر နှင့် مؤنث ဖြစ်ခြင်းတို့တွင် ကိုက်ညီမှုရှိရမည်။

ဥပမာ - إِحْدَى عَشَرَةَ اِمْرَأَةً ، أَحَدَ عَشَرَ كَوْكَبًا
إِحْدَى عَشَرَةَ ← مميَّز (عدد)
اِمْرَأَةً ← تمييز (معدود ـ مفرد منصوب)
أَحَدَ عَشَرَ ← مميَّز (عدد)
كَوْكَبًا ← تمييز (معدود ـ مفرد منصوب)

(ဂ) (၁၃) မှ (၉၉) တို့၏ ဒုတိယအစိတ်အပိုင်းသည် مَعْدُود နှင့် مذكر၊ مؤنث ဖြစ်ခြင်းတို့တွင် ကိုက်ညီမှုရှိပြီး ပထမအစိတ်အပိုင်းသည် ဆန့်ကျင်မည်ဖြစ်သည်။

ဥပမာ - ثَلاثَ عَشَرَةَ اِمْرَأَةً ، ثَلَاثَةَ عَشَرَ رَجُلًا
ثَلاثَ عَشَرَةَ ← مميَّز (عدد)
اِمْرَأَةً ← تمييز (معدود)
ثَلَاثَةَ عَشَرَ ← مميَّز (عدد)
رَجُلًا ← تمييز (معدود)

(ဃ) مائة (၁၀၀) နှင့် ألف (၁၀၀၀)တို့၏ تمييز သည် مركب إضافي ပုံစံဖြင့် လာရှိမည်ဖြစ်သည်။ ၎င်း تمييز သည် مفرد ဖြစ်၍ مجرور လည်းဖြစ်မည်။

ဥပမာ - مِائَةُ طَالِبٍ مِائَة طَالبةٍ
أَلْفُ طَالِبٍ أَلْفُ طَالِبَةٍ



## လေ့ကျင့်ခန်း

၁။ تمييز ဆိုသည်မှာ အဘယ်နည်း၊ ဥပမာ (၃) ခုနှင့်တကွရှင်းပြပါ။

၂။ အောက်ပါဝါကျများတွင် تمييزနှင့် مُمَيَّزٌ တို့ကို ရှင်းပြပြီးနောက် အဓိပ္ပါယ်ပြန်ဆိုပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

| | |
|---|---|
| مِتْرٌ - မီတာ | فاض - ပြည့်နက်သွားခြင်း |
| سُرُوْرٌ - ပျော်ရွှင်ခြင်း | أَعْمَقُ - ပိုမိုနက်ရှိုင်းခြင်း |
| معْرِفَةٌ - ဗဟုသုတ | كُوْبٌ - ခွက် |
| ذِرَاعٌ - တစ်တောင် | زُجَاجَةٌ - ဖန်ပုလင်း |
| لِتْرٌ - လီတာ | حَلِيْبٌ - နွားနို့ |
| اِزْدَهَرَ - တိုးတက်ခြင်း | |

(၁) اشتريتُ مِتْرًا ثَوْبًا.

(၂) فاضَ الْقَلْبُ سُرُوْرًا.

(၃) أنتَ أعْمَقُ مِنِّي مَعْرِفَةً.

(၄) شربت كُوْبًا من ماءٍ

(၅) أمْلِكُ ذِرَاعَ أَرْضٍ.

(၆) الأسبوع سبعة أيام.

(၇) فَاضَتِ الأرضُ بَرَكَةً.

(၈) في الزُّجَاجَةِ لِتْرٌ حَلِيْبًا.

(၉) حَمَلْتُ سبعة عشر كتابا

၃။ အောက်ပါကွက်လပ်များတွင် သင့်လျော်သော تـمـييز များကို ဖြည့်စွက်ပြီး إعراب တပ်၍ မြန်မာဘာသာသို့ ပြန်ဆိုပါ။

(၁) الذهَبُ أغلى ............ من الفضة .

(၂) اِزْدَهَرَتِ الأرضُ ............ .

(၃) أنت أكثر من أخيك ....... .



## (၈) مُسْتَثْنٰى - အကြောင်း

حُـــرُوْفُ الِاسْتِثْنَـاءِ (ကန့်သတ်ပေးသော အက္ခရာများ) ဖြင့်ကန့်သတ်ခံရသော اسم مـنـصوب ကို مُسْتَثْنٰى ဟု ခေါ်ဆိုသည်။

حـــروف الاستثـناء ၏အလျင်ရှိသော (နာမ်) ကို مُسْتَثْـــنٰى مِنْهُ ဟု ခေါ်ပြီး နောက်တွင်ရှိသော ကန့်သတ်ခံရသည့် နာမ်ကို مُسْتَثْنٰى ဟု ခေါ်သည်။

حروف الاستثناء များမှာ (إلا ـ غير ـ سوى ـ حاشا ـ خلا ـ عدا ) စသည်တို့ဖြစ်သည်။

ဥပမာ - جاء نِي القومُ إلَّا زيداً

| جاء | ني | القومُ | إلَّا | زيداً |
|---|---|---|---|---|
| فعل | مفعول به | فاعل(مستثنى منه ) | حرف الاستثناء | مستثنى |

### مستثنى ၏ အမျိုးအစားများ

مستثنى (၂)မျိုးရှိသည်။ ၎င်းတို့မှာ......

(၁) مُتَّصِلٌ (၂) مُنْقَطِعٌ

(၁) مستثنى နှင့် مستثنى منه တို့သည် အမျိုးတူပါက مستثنى متصل ဟုခေါ်မည်။

ဥပမာ - جاء ني القوم إلَّا زيداً

زَيْدٌ သည် القومُ (လူအုပ်စု) နှင့်အမျိုးအစားတူသည်။

(၂) مستثنى နှင့် مستثنى منه တို့သည် အမျိုးမတူပါက مستثنى منقطع ဟုခေါ်သည်။

ဥပမာ - سَجَدَ الْمَلاَئِكَةُ إلَّا شَيْطَانًا

(ရှိုင်သွာန်မှအပ ကောင်းကင်တမန်အားလုံး စဂျ်ဒဟ်ပြုလုပ်ခဲ့သည်။)

شيطان သည် ملائكة ထဲမှမဟုတ်သောကြောင့် منقطع ဖြစ်မည်။

### إلَّا ဖြင့် ကန့်သတ်ခြင်းခံရသော مستثنى ၏ အမိန့်များ

(၁) جـمـلـة တစ်ခုသည် مثبتة ဖြစ်မည်။ ထို့အတူယင်း جـمـلـةတွင် مستثـــنى مـنـــه ကိုလည်း ဖော်ပြထားပါက مستثنى သည် منصوب ဖြစ်မည်။

ဥပမာ - خرج الطلاب إلَّا حامدًا .

(၂) جـمـلـةတစ်ခုသည် مـنـفية ဖြစ်မည်။ ထို့အတူယင်း جـمـلـةတွင် مستثـــنى مـنـــه ကိုလည်း ဖော်ပြထားပါက مستثنى သည် منصوب ဖြစ်နိုင်သလို မိမိရှေ့တွင်ရှိသော عامل ၏ إعراب အတိုင်းလည်း လာနိုင်သည်။

ဥပမာ - ماخرج الطلاب إلَّا حامدًا/ حامِدٌ .

(၃) جملة တစ်ခုသည် منفية ဖြစ်၍ مستثنى منه ကိုဖော်ပြထားခြင်းမရှိပါက مستثنى သည် မိမိရှေ့တွင်ရှိသော عامل ၏ إعراب အတိုင်းသာလာရှိမည်။

ဥပမာ - ماخرج إلا حامدٌ.

ما رَأَيْتُ إلا حامِدًا .

ماذَهَبْتُ إلَّا إلٰى حَامِدٍ.

**غَيْرَ ، سِوٰى တို့ဖြင့် ကန့်သတ်ခြင်းခံရသော مستثنى ၏ အမိန့်**

مستثنى သည် غير နှင့် سوى တို့နောက်တွင် ကျရောက်ပါက مجرور ဖြစ်မည်။

ဥပမာ - جَاءَ نِي الْقَوْمُ غَيْرَ حَامِدٍ . جَاءَ نِي الْقَوْمُ سِوٰى حَامِدٍ.

**خلا، حاشا، عدا တို့ဖြင့် ကန့်သတ်ခြင်းခံရသော مستثنى ၏ အမိန့်**

(၁) خلا، حاشا، عدا တို့ကို حرف الجر အဖြစ်သတ်မှတ်ပါက مستثنى သည် مجرور ဖြစ်မည်။

ဥပမာ - جاء ني الْقَوْمُ خَلَا حامِدٍ.

(၂) خلا، حاشا، عدا တို့ကို فعل ماض များအဖြစ်သတ်မှတ်ပါက مستثنى သည် منصوب ဖြစ်မည်။

ဥပမာ - جاء ني الْقَوْمُ خَلَا حامِدًا.

(၃) خلا ، حاشا ، عدا တို့ရှေ့တွင် "ما" ဝင်ရောက်ပါက مستثنى ကို نصب ပေးရန် အရေးကြီးသည်။

ဥပမာ - جاء ني الْقَوْمُ ماخَلَا حامِدًا.



**လေ့ကျင့်ခန်း**

၁။ مستثنى ဆိုသည်မှာ အဘယ်နည်း။ ဥပမာ (၃) ခုပေး၍ ရှင်းပြပါ။

၂။ အောက်ပါဝါကျများရှိ مستثنى ကို ထုတ်ဖော်ပြပြီး ၎င်း၏ إعراب အမှန်ကို အကြောင်းခံဖြင့် ရေးပြပါ။

**ကျက်မှတ်ရန် စကားဆစ်များ**

صَحِيْفَة(ج) صُحُفٌ - စာစောင်   مَعْرَكَةٌ (ج) مَعَارِكُ - စစ်ပွဲ

قابل - မျက်နှာချင်းဆိုင်တွေ့ဆုံခြင်း   انتصر -အနိုင်ရခြင်း

(١) ماسافر الحاج إلا قليلا.

(٢) انتصر الجيش في كل معارك إلا معركة واحدة.

(٣) ما رأيت إلا مديرا

(٤) ماعاد المسافرون إلا مسافر أو مسافرا

(٥) جَاءَ نِى الْقَوْمُ سِوٰى زَيْدٍ .

(٦) لم أقرأ من الصحف إلا صحيفة أو صحيفة.

(٧) جَاءَ نِى الطُّلَّابُ سِوَى زَيْدٍ .

(٨) جَاءَ نِى الْقَوْمُ حَاشَا زَيْدٍ .

(٩) قَرَأْتُ الْكِتَابَ غَيْرَ صَفْحَةٍ .

(١٠) اِشْتَرَيْتُ كُتُباً سِوٰى ثَوْبٍ .

(١١) أَنْفَقْتُ مَالِي خَلاَ قَلِيْلٍ .

(١٢) اِشْتَرَيْتُ الْأَشْيَاءَ كُلَّهَا سِوَى الثَّوْبِ .

(١٣) قَابَلْتُ أَصْدِقَائِيْ عَدَا سَعِيْدٍ .

(١٤) نَجَحَ الطُّلَّابُ حَاشَا حامد .

## (၉) كان နှင့် အပေါင်းအပါတို့၏ خبر အကြောင်း

كان နှင့် အပေါင်းအပါတို့၏ အမိန့်ပညတ်ချက်များကို مرفوعات အခန်းတွင် ဖော်ပြခဲ့ပြီးဖြစ်သည်။

ဥပမာ - كَانَ زَيْدٌ قَائِماً

**كان ၏ပညတ်ချက်အချို့**

كان ၏ خبر သည် معرفة ဖြစ်ပါက မိမိ اسم အလျှင် လာနိုင်သည်။

ဥပမာ ……

كَانَ زَيْدٌ الْقَائِمَ　　كَانَ الْقَائِمَ زَيْدٌ

كَانَ مُحَمَّدٌ الصَّائِمَ　　كَانَ الصَّائِمَ مُحَمَّدٌ

### လေ့ကျင့်ခန်း

၁။ كان နှင့်အပေါင်းအပါတို့အနက် ကြိုက်နှစ်သက်ရာ فعل (၅) ခုဖြင့် جملة (၅) ခုရေးပါ။

၂။ كان ၏خبر သည် မည်သည့်အချိန်တွင် မိမိ اسم ထက်အလျှင် လာနိုင်ပါသနည်း၊ ဥပမာ (၅) ခု မိမိဘက်မှ ရေးသားပါ။



## (၁၀) إنّ နှင့် အပေါင်းအပါများ၏ اسم အကြောင်း

إنّ နှင့် အပေါင်းအပါတို့၏ အမိန့်ပညတ်ချက်များကို مرفوعات အခန်းတွင် ဖော်ပြခဲ့ပြီးဖြစ်သည်။

ဥပမာ - إن اللّٰهَ عَلِيْمٌ .

### လေ့ကျင့်ခန်း

၁။ إنّ နှင့် အပေါင်းအပါတို့ကို မည်သို့ခေါ်သနည်း? အဘယ့် ကြောင့်နည်း?

၂။ အောက်ပါဝါကျများပေါ်၌ إنّ ထည့်ပေးပါ။

**ကျက်မှတ်ရန်စကားလုံးများ**

خاشع - ခယရိုကျိုးသူ　مُعْرِضٌ - ဥပေက္ခာပြုသူ/မျက်ကွယ်ပြုသူ　لَغْوٌ - အဟောသိကကိစ္စ

(၁) السيارة جميلة　　(၂) المؤمن خاشع في الصلاة

(၃) القلم مكسور　　(၄) المؤمن معرض عن اللغو

၃။ အောက်ပါဝါကျများကို إعراب တပ်၍ အဓိပ္ပါယ် ပြန်ဆိုပြပါ။

(١) سمعت أنّ المدرس ماجاء اليوم.　　(٢) أظن أنه طالب جديد

(٣) أتظن أنّني ضعيف.　　(٤) سمعت أنها أحسن طبيبة في المستشفى.



## (၁၂) ماولا المشبهتين بليس (ليس နှင့်တူဆင်သော ما နှင့် لا ) တို့၏ خبر အကြောင်း

ليس နှင့် တူဆင်သော "لا"၊ "ما" တို့၏ အမိန့်ပြည်တ်ချက်များကို مرفوعات အခန်းတွင် ဖော်ပြခဲ့ပြီးဖြစ်သည်။

ဥပမာ - مَارَجُلٌ ضَارِباً - အမျိုးသားတစ်ဦး ရိုက်နေသူ မဟုတ်ပါ။

لَا طَالِبٌ نَائِماً- ကျောင်းသားသည် အိပ်နေသူ မဟုတ်ပါ။

**မှတ်သားရန်**

(၁) ما ပါသော جملة တစ်ခုတွင် إن (သို့) إلا တို့ဝင်ရောက်ပါက ما သည် عمل လုပ်တော့မည်မဟုတ်ပေ။

ဥပမာ - مَا زَيدٌ إلَّا قَائِمٌ - مَا إِنْ زَيدٌ قَائِمٌ



### လေ့ကျင့်ခန်း

၁။المشبهتين بليس "لا" و "ما" တို့၏ عمل လုပ်ပုံကို ဥပမာ (၃) ခုနှင့်တကွ ရှင်းပြပါ။

၂။ ما ၏ عمل သည် မည်သည့်အခြေအနေ၌ ပျက်သွားမည်နည်း?

၃။ အသင်၏တစ်နေတာနှင့်ပတ်သက်၍ المشبهتين بليس "لا" و "ما" တို့ပါဝင်သော جملة (၅) ခုရေးပါ။

## (၁၁) لا لنفي الجنس ၏ اسم အကြောင်း

لا لنفي الجنس - ၏ အမိန့်ပြည်တ်ချက်များကို مرفوعات အခန်းတွင် ဖော်ပြပြီးဖြစ်သည်။

ဥပမာ - لَا رَجُلَ فِي الدَّارِ.



### လေ့ကျင့်ခန်း

၁။ لا النافية للجنس သည် မည်သည့်အချက်ကို ငြင်းဆိုရန်လာသနည်း?

၂။ لا النافية للجنس ၏ اسم သည် မည်သည့်အချိန်တွင် مبني على الفتح ဖြစ်မည်နည်း။

၃။ အသင်တို့ ကျောင်းနှင့်ပတ်သက်၍ لا النافية للجنس ပါသော جملة (၅) ခုရေးသားပါ။



## သင်ခန်းစာ (၁၄)

## مَجْرُوْرَات အကြောင်း

جَرٌّ ( ـــٍ ) ပေးခြင်းခံရသော اسم ကို مجرور ဟုခေါ်ဆိုသည်။ ၎င်းတို့မှာ (၂) မျိုးရှိသည်။

(၁) حرفُ الجر တစ်လုံးလုံး ဝင်ရောက်ခြင်းကြောင့် مجرور ဖြစ်ခြင်း။

(၂) مضاف إليه ဖြစ်ခြင်း။

## (၁) حرف الجر တစ်လုံးလုံး ဝင်ရောက်ခြင်းကြောင့် مجرور ဖြစ်ခြင်းအကြောင်း

الحروف الجارة သည် (၁၇) လုံးရှိသည်။

باء، تاء، كاف ، لام ، واو ، مُنْذُ ، مُذْ ، خلاَ ، رُبَّ

حَاشَا ، مِنْ، عَدَا ، فِيْ ، عَنْ ، عَلىٰ ، حَتّٰى ، إِلىٰ

(၁) باء သည် အဓိပ္ပါယ် (၁၁) မျိုးအတွက် အသုံးပြုသည်။ ယင်းတို့အနက်အသုံးအများဆုံးမှာ······

(က) الْمُصَاحَبَةُ (အရာနှစ်ခုပူးတွဲခြင်း) အတွက်အသုံးပြုသည်။

ဥပမာ - بِزَيْدٍ دَاءٌ (ဇိုက်ဒ်တွင် ရောဂါရှိသည်။)

(ခ) الِاسْتِعَانَةُ (အကူအညီယူခြင်း) အတွက်အသုံးပြုသည်။

ဥပမာ - كَتَبْتُ بِالْقَلَمِ (ကျွန်တော်သည် ကလောင်တံ၏ 'အကူအညီဖြင့်' ရေးခဲ့သည်။)

(ဂ) الظَّرْفِيَّةُ (နေရာပြရန်) အတွက်အသုံးပြုသည်။

ဥပမာ - حَامِدٌ بِالْفَصْلِ (ဟာမိဒ်သည် အတန်း 'ထဲတွင်' ရှိသည်။)

(ဃ) التَّعْدِيَةُ ( (الفعل اللازم)ကံမလိုကြိယာကို (الفعل المتعدي)ကံလိုကြိယာပြုလုပ်ရန်)အတွက် အသုံးပြုသည်။ ဥပမာ - ذَهَبْتُ بِخَالِدٍ (ကျွန်တော်သည် ခါလိဒ် 'ကိုခေါ်ဆောင်' သွားခဲ့သည်။)

(၂) تاءသည် قَسَمٌ ကျိမ်ဆိုရန်အတွက်အသုံးပြုသည်။

ဥပမာ - تَاللّٰهِ لَأَجْتَهِدَنَّ ( 'အလ္လာဟ်အရှင်မြတ်၏ကစမ်' ကျွန်တော်မှုချကြိုးစားမည်။)

(၃) كاف သည် (နှိုင်းယှဉ်ရန်)အတွက် အသုံးပြုသည်။

ဥပမာ - . الأُسْتَاذُ كَالْوَالِدِ (ဆရာသည် ဖခင် 'ကဲ့သို့' ဖြစ်သည်။)

(၄) لام သည် အဓိပ္ပါယ် (၆) မျိုးအတွက်အသုံးပြုသည်။ အသုံးများသော အဓိပ္ပါယ်များမှာ ······

(က) الِاخْتِصَاصُ (သီးသန့်အထူးပြု) ရန်အတွက်အသုံးပြုသည်။

ဥပမာ - الْكِتَابُ لِلطَّالِبِ (စာအုပ်သည် ကျောင်းသား 'အတွက်' ဖြစ်သည်။)

(ခ) التَّعْلِيْلُ (အကြောင်းပြချက်ကို) ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - جِئْتُ لِإِكْرَامِكَ (ကျွန်တော်သည် အသင့်ကို ဂုဏ်ပေးရန်'အတွက်' လာခဲ့သည်။)

(ဂ) التَّمْلِيْكُ (ပိုင်ဆိုင်မှုကို) ပြရန်အတွက်အသုံးပြုသည်။

ဥပမာ - الْمَالُ لِلتَّاجِرِ (ဥစ္စာပစ္စည်းသည် ကုန်သည် '၏'ပစ္စည်း ဖြစ်သည်။

(၅) مِنْ သည် (၄) မျိုးအတွက်အသုံးပြုသည်။ ယင်းတို့အနက် အသုံးအများဆုံးမှာ......

(က) الْإِبْتِدَاءُ (အစပြုမှုကို ဖော်ပြရန်) အတွက်အသုံးပြုသည်။

ဥပမာ -. خَرَجْتُ مِنَ الْمَدْرَسَةِ (ကျွန်တော်သည် ကျောင်း'မှစတင်' ထွက်ခဲ့သည်။)

(ခ) التَّبْعِيْضُ (အချို့/အနည်းငယ်) ၏ အဓိပ္ပါယ်ကိုဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - .أَخَذْتُ مِنَ الدَّرَاهِمِ ( ကျွန်တော်သည် ငွေဒင်္ဂါး'အချို့' ယူခဲ့သည်။)

(ဂ) التَّبْيِيْنُ - (ရှင်းပြပေးရန်) အတွက်အသုံးပြုသည်။

ဥပမာ - .تَفِيْضُ مِنَ الدَّمْعِ (စီးဆင်းလာသည် 'မျက်ရည်' ) မျက်ရည်စီးဆင်းလာသည်။

(၆) إِلٰى သည် (အဆုံး) ကိုဖော်ပြရန်အတွက်အသုံးပြုသည်။

ဥပမာ - .ذَهَبْتُ إِلىٰ المَسْجِدِ ( ကျွန်တော်သည် ဗလီ 'သို့' သွားခဲ့သည်။)

(၇) حتّٰى သည်လည်း (အဆုံး) ကို ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - نِمْتُ الْبَارِحَةَ حَتّٰى الصَّبَاحِ (ကျွန်တော်သည် မနေ့ညက နံနက်'ထိ' အိပ်ခဲ့သည်။)

(၈) علىٰ သည် (မြင့်မားမှု) ကို ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - قَعَدْتُّ علىٰ الْكُرْسِيِّ (ကျွန်တော်သည် ကုလားထိုင် 'ပေါ်' တွင် ထိုင်ခဲ့သည်။)

(၉) عَنْ သည် (ဝေးကွာမှု) ကို ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - .رَمَيْتُ السَّهْمَ عَنِ الْقَوْسِ (ကျွန်တော်သည် မြှားတံကို လေးကိုင်း'မှ' ပစ်ခဲ့သည်။)

(၁၀) فِيْ သည် (အချိန်/နေရာ) ကို ဖော်ပြရန်အတွက်အသုံးပြုသည်။

ဥပမာ - حَامِدٌ فِيْ الدَّارِ (ဟာမိဒ်သည် အိမ်ထဲ 'တွင်' ရှိသည်။)

(၁၁+၁၂) مُنْذُ + مُذْ တို့သည် (အတိတ်ကာလ၏အစ) ကို ဖော်ပြရန်အတွက်အသုံးပြုသည်။

ဥပမာ -. مَارَأَيْتُهُ مُنْذُ يَوْمِ الْجُمُعَةِ. مَارَأَيْتُهُ مُذْ يَوْمِ الْجُمُعَةِ

(ကျွန်တော်သည်သူ့ကို သောကြာနေ့ 'ကတည်းက' မတွေ့ခဲ့ပါ။)

(၁၃) رُبَّ သည် (နည်းပါးမှု) ကို ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - رُبَّ رَجُلٍ كَرِيْمٍ لَقِيْتُهُ

(မွန်မြတ်သော ယောကျ်ား'အနည်းငယ်' ကိုသာ ကျွန်တော်တွေ့ခဲ့ဖူးသည်။)

(၁၄) واو သည် (ကျိမ်ဆိုရန်) အတွက် အသုံးပြုသည်။

ဥပမာ - وَاللّٰهِ لَأَشْرَبَنَّ اللَّبَنَ. ( 'အလ္လာဟ့်ကစမ်' ကျွန်တော်မုချ နို့သောက်မည်။)

(၁၅+၁၆+၁၇) حَاشَا ، خَلَا ، عَدَا တို့သည် (ကန့်သတ်ရန်) အတွက် အသုံးပြုသည်။

ဥပမာ - جَاء الطُّلَابُ خَلَا حَامِد، جَاء الطُّلَابُ عدا حَامِدٍ ، جَاء الطُّلَابُ حَاشَا حَامِد

(ဟာမိဒ် 'မှအပ' ကျောင်းသားအားလုံးလာခဲ့သည်။)



## (၂) إضافة ဖြစ်သောကြောင့် مجرور ဖြစ်ခြင်း အကြောင်း

مضاف إليه သည် အမြဲ مجرور ဖြစ်မည်။

ဥပမာ - قَلَمُ طَالِبٍ جَمِيْلٌ . (ကျောင်းသား၏' ကလောင်တံသည် လှပသည်။)

إضافة သည် (၂)မျိုးရှိသည်။

(၁) إضافة لفظية (၂) إضافة معنوية

(၁) صفة တစ်ခုသည် اسم တစ်ခုခု ဘက်သို့ إضافة ဖြစ်ခြင်းကို إضافة لفظية ဟုခေါ်သည်။

ဥပမာ - سَارِقُ الْكِتَابِ - (စာအုပ်ခိုးသူ)

(၂) صفة မဟုတ်သော اسم တစ်ခုခုသည် အခြား اسم တစ်ခုဘက်သို့ إضافة ဖြစ်ခြင်းကို إضافة معنوية ဟုခေါ်သည်။

ဥပမာ - كِتَابُ حَامِدٍ (ဟာမိဒ်၏ စာအုပ်)

### إضافة معنوية တွင်မှတ်သားရမည့်အချက်များ

(၁) مضاف နှင့် مضاف إليه တို့သည် အမျိုးအစားချင်းတူပါက ထို إضافة တွင် 'مِنْ' ၏ အဓိပ္ပါယ်ပါရှိမည်။ ဥပမာ - ثَوْبُ الْحَرِيْرِ — ၎င်း၏ မူးရင်းမှာ . ثَوْبٌ مِنَ الحَرِيْرِ (ပိုးထည်)

(၂) مضاف إليه သည် مضافအတွက် ظرف ဖြစ်ပါက ထို إضافة တွင် 'فِيْ' ၏ အဓိပ္ပါယ်ပါရှိမည်။ ဥပမာ - صَلَاةُ الْعَصْرِ — ၎င်း၏ မူးရင်မှာ صَلَاةٌ فِيْ الْعَصْرِ (အစွရ်နမားဇ်)

(၃) مضاف သည် مضاف إليه နှင့် ပတ်သက်ဆက်နွယ်မှုကို ဖော်ပြပါက ထို إضافة တွင် 'لِـ' ၏ အဓိပ္ပါယ်ပါရှိမည်။

ဥပမာ - غُلَامُ زَيْدٍ — ၎င်း၏မူရင်းမှာ غُلَامٌ لِزَيْدٍ (ဇိုင်ဒ်၏ ကျွန်)

## إضافة معنوية ၏အကျိုး

إضافة معنوية ၏ အကျိုးမှာ - အကယ်၍ مـضاف သည် مـعرفة ဘက်သို့ إضـافة ဖြစ်ခဲ့လျှင် ၎င်းသည်လည်း مـعرفة ဖြစ်သွားသည်။ အကယ်၍ نـكـرة ဘက်သို့ إضافة ဖြစ်ခဲ့လျှင် "تـخـصيص" (အထူးပြု)ဆိုသောအဓိပ္ပါယ်ကို ဆောင်သည်။

မှတ်သားရန်

☆ مُضَافٌ ပေါ်တွင် تنوين လာမည်မဟုတ်ပေ။

☆ جمع المذكر السالم နှင့် مثنى တို့၏ نون သည် إضافة ဖြစ်သောအခါ ပြုတ်သွားမည်။ ဥပမာ - قَلَمَا طَالِبٍ = قلمان + طالب ، مسلمو ميانما = ميانما+مسلمون



## လေ့ကျင့်ခန်း

၁။ مجرورات ဆိုသည်မှာ အဘယ်နည်း။

၂။ حرف الجر (၁၇) လုံးကို အသုံးပြု၍ ဝါကျ (၁၇) ခုရေးသားပါ။

၃။ مضاف إليه သည် အမြဲတမ်း မည်သည့်အခြေအနေ၌ ရှိမည်နည်း?

၄။ إضافة ၏အမျိုးအစားများကို ဥပမာနှင့်တကွဖော်ပြပါ။

၅။ الإضافة المعنوية ၏အကျိုးကျေးဇူးကို ဖော်ပြပါ။

၇။ အောက်ဖော်ပြပါ ဝါကျများမှ مضاف နှင့် مضاف إليه ကို သတ်မှတ်ပေးပြီး ဘာသာပြန်ဆိုပါ။

**ကျက်မှတ်ရန်စကားဆစ်များ**

| | | |
|---|---|---|
| أَخْلَاقٌ - ကိုယ်ကျင့်တရားများ | حِلْمٌ - သီးခံမျိုးသိပ်ခြင်း | دَارُ الْأَيْتَامِ - မိဘမဲ့ဂေဟာ |

رَكِبْتُ قِطَارَ الْمَسَاءِ. (၃)　　اَلْحِلْمُ سَيِّدُ الْأَخْلَاقِ (၂)　　دَارُ الْأَيْتَامِ قَرِيْبَةٌ مِنْ بَيْتِنَا (၁)

قَلَمَا مَسْعُوْدٍ مَكْسُوْرَانِ. (၅)　　مُسْلِمُوْ الْهِنْدِ أَغْنِيَاءُ. (၄)

၈။အောက်ပါ စကားလုံးများကို مضاف ပြုလုပ်၍ ပြည့်ဝသော ဝါကျများတွင် အသုံးပြုပြပါ။

قَلَمٌ ـ عَيْنَانِ ـ يَدَانِ ـ كُتُبٌ ـ مُهَنْدِسُونَ

၉။အောက်ပါ စကားလုံးများကို مضاف إليه ပြုလုပ်၍ ပြည့်ဝသော ဝါကျများတွင် အသုံးပြုပြပါ။

اَللّٰهُ ـ مُحَمَّدٌ ـ الإِسْلَامُ ـ الْقُرْآن ـ مَكَّةُ

**ဆရာလမ်းညွှန်**

ဤကဏ္ဍသည် ကျောင်းသားများ إعـــــــراب မပါသော စာအုပ်များဖတ်ရာတွင် အဓိက ကျလှသော ကဏ္ဍဖြစ်သည်။ ထို့ကြောင့်ဆရာသည် ကျောင်းသားများကို စနစ်တကျအချိန်ယူကာ ဥပမာများ၊ လက်တွေ့ အကောင်အထည်ဖော်မှုများနှင့်တကွ သင်ကြားပေးရန်အလွန်အရေးကြီးပါသည်။

## သင်ခန်းစာ (၁၅)

## أصناف الإعراب

### اسم ၏ إعراب (သရ) အမျိုးအစားများအကြောင်း

معرب အခန်းတွင် လေ့လာခဲ့သော إعـراب ظــاهري နှင့် إعـراب تـقـديري တို့၏အမျိုးအစား များတွင် إعـراب အခြေအနေ ပြောင်းလဲပုံများကို လေ့လာသော အခန်းအား أصـــناف الإعـراب ဟု ခေါ်ဆိုသည်။

ဤအခန်းတွင် အုပ်စု (၉) ခုရှိမည်။ ယင်းအုပ်စုတစ်ခုတိုင်းတွင် ပါရှိမည့်အမျိုးအစားတိုင်းကို ဦးစွာ သိရှိရမည်။ ထို့နောက် إعـــــــــراب ပြောင်းလဲမှုအခြေအနေတိုင်းတွင် လာရှိမည့် သင်္ကေတများကိုလည်း ဥပမာများနှင့်တကွ စနစ်တကျမှတ်သား၍ လေ့ကျင့်ရမည်။

ထိုအုပ်စု (၉) ခုမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) (က) اَلْمُفْرَدُ الْمُنْصَرِفُ الصَّحِيْحِ (ခ) جَارِيْ مَجْرَى الصَّحِيْحِ (ဂ) اَلْجَمْعُ الْمُكَسَّرُ الْمُنْصَرِفُ

(၂) جَمْعُ الْمُؤَنَّثِ السَّالِمُ

(၃) اَلأَسْمَاءُ السِّتَّةُ

(၄) اَلْمُثَنّٰى နှင့် အပေါင်းအပါများ

(၅) جَمْعُ الْمُذَكَّرِ السَّالِمُ နှင့် အမျိုးတူများ

(၆) اَلْمُضَافُ إلٰى يَاءِ الْمُتَكَلِّمِ နှင့် اَلْإِسْمُ الْمَقْصُوْرُ

(၇) اَلْاسْمُ الْمَنْقُوْصُ

(၈) جَمْعُ الْمُذَكَّرِالسَّالِمُ الْمُضَافُ إلٰى يَاءِ الْمُتَكَلِّمِ

(၉) غَيْرُ الْمُنْصَرِفِ

ရှင်းလင်းချက်

## အုပ်စု(၁) المفرد المنصرف الصحيح နှင့် အပေါင်းအပါများအကြောင်း

(က) المفرد المنصرف الصحيح ဟူသည်မှာ اسم တစ်ခု၏နောက်ဆုံးတွင် حرف علة မရှိသော مفرد (တစ်ကိန်း) ကိုခေါ်သည်။

ဥပမာ - كتاب ، قلمٌ ، محمّدٌ ، عامرٌ

(ခ) جاري مجرى الصحيح ဟူသည်မှာ اسم ثلاثي တစ်ခု၏နောက်ဆုံးအက္ခရာတွင် واوٌ (သို့) ياءٌ ရှိနေပြီး ၎င်းအလျင်ရှိသောအက္ခရာသည် ساكن ဖြစ်သော ပုံစံကို ခေါ်သည်။

ဥပမာ - دَلْوٌ - ظَبْيٌ

(ဂ) الجمع المكسّر ဟူသည်မှာ جمع ပြုလုပ်ရာတွင် واحد ပုံစံပျက်သွားသော اسم ခေါ်သည်။

ဥပမာ - رَجُلٌ မှ رِجَالٌ - حَرْفٌ မှ أَحْرُفٌ

အဆိုပါ (၁)အုပ်စု၏အောက်တွင်ပါရှိသော (က - ခ - ဂ)အမျိုးအားလုံးတို့သည် ……

حالة الرفع တွင် ضمة ၊ حالة النصب တွင် فتحة နှင့်ဖြစ်၍ حالة الجر တွင် كسرة ဖြင့်လာရှိမည်ဖြစ်သည်။ ဥပမာ……

| الحالة الإعرابية | العلامة | عامل | المفرد المنصرف الصحيح | جاري مجرى الصحيح | الجمع المكسر |
|---|---|---|---|---|---|
| حالة الرفع | ضمةظاهرة | هذا | رَجُلٌ | دَلْوٌ | أَثْوَابٌ . |
| حالة النصب | فتحة ظاهرة | رَأَيْتُ | رَجُلاً | دَلْواً | أَثْوَاباً . |
| حالة الجرّ | كسرة ظاهرة | إلى | رَجُلٍ | دَلْوٍ | أَثْوَابٍ . |

## လေ့ကျင့်ခန်း

၁။ أصناف الإعراب ဟူသည်မှာ အဘယ်နည်း၊ အုပ်စုမည်မျှရှိသနည်း၊ ထိုအုပ်စုတို့၏ အမည်များကိုရေးပါ။

၂။ အုပ်စု (၁) သည် အခြေအနေ (၃) မျိုးလုံးတွင် မည်သို့လာမည်နည်း၊ ဥပမာများနှင့် တကွရှင်းပြပါ။

၃။ အောက်ပါဝါကျများသည် မည်သည့်အဖွဲ့မှ ဖြစ်သည်ကို သတ်မှတ်ပေးပြီးနောက် ဘာသာပြန်ဆိုပါ။

ကျက်မှတ်ရန်စကားလုံးများ

ظَبْيٌ - သမင် وُزَرَاءُ - ဝန်ကြီးများ شُبَّاكٌ - ပြူတင်းပေါက် اَلْمُفَتَّحَةُ -ပွင့်အာနေသော

(၁) الظبي تعيش في الغابة . (၂) إن الوزراء أمناء الدولة .

(၃) نظرت الأزهار المفتحة من الشباك.

## အပိုင်း (၂) جمع المؤنث السالم အကြောင်း

جمع المؤنث السالم ဟူသည်မှာ اسم တစ်ခုအား مفرد ပုံစံမှ جمع ပြုလုပ်သည့်အခါ ألف နှင့် تاء مبسوطة (ت) တို့၍ ပြုလုပ်ထားသော اسم ကိုခေါ်ပါသည်။ ထိုသို့جمع ပြုလုပ်ရာတွင် မူရင်း مفرد သည် مؤنث ဖြစ်နိုင်သလို مذكر လည်း ဖြစ်နိုင်သည်။

ဥပမာ- مسلمةٌ မှ مسلماتٌ - حمّامٌ မှ حَمَّامَاتٌ

مرفوعٌ မှ مرفوعاتٌ - سِجِلٌّ မှ سِجِلَّاتٌ

جمع المؤنث السالم ၏ إعراب သရုပ်စံများမှာ ......

حالة الرفع တွင် ضمة နှင့်ဖြစ်ပြီး حالة النصب နှင့် حالة الجرّ နှစ်ခုလုံးတွင် كسرة ဖြင့်လာရှိမည်။ ဥပမာ ......

| الحالة الإعرابية | العلامة | عامل | جمع المؤنث السالم (للمؤنث) | جمع المؤنث السالم (للمذكر) |
|---|---|---|---|---|
| حالة الرفع | ضمة ظاهرة | جائتني | مُسْلِمَاتٌ . | حمّاماتٌ . |
| حالة النصب | كسرة ظاهرة | رَأَيْتُ | مُسْلِمَاتٍ . | حمّاماتٍ . |
| حالة الجرّ | كسرة ظاهرة | مَرَرْتُ | بِمُسْلِمَاتٍ. | حمّاماتٍ . |

❁❁❁

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများမှ جمع المؤنث السالم ၏ إعراب အခြေအနေများကို အကြောင်းခံနှင့်တကွ ရေးသားပါ။ ထို့နောက် ဘာသာပြန်ဆိုပါ။

ဥပမာ - أَكَلَ الْكَلْبُ الدَّجَاجَاتِ . - (ခွေးသည် ကြက်မများကို စားခဲ့သည်။) الدجاجات သည် مفعول به ဖြစ်သောကြောင့် حالة النصب တွင်ရှိသည်။

(၁) نَضَجَتِ التُّفَّاحَاتُ . (၂) نِمْتُ تَحْتَ الشَّجَرَاتِ .

(၃) أَكْرَمْتُ الْقَادِمَاتِ . (၄) شَكَرْتُ لِلْمُحْسِنَاتِ .

(၅) سَقَيْتُ الشَّجَرَاتِ .

၂။ အောက်ပါစကားလုံးများကို جمع المؤنث السالم ပြုလုပ်ပြီးနောက် ပြည့်ဝသော ဝါကျများပြုလုပ်ပါ။

(၁) سيارة - ကား (၂) بقرة - နွား (၃) أَرْمِلَةٌ - မုဆိုးမ (၄) فَتَاةٌ - လုံမပျို

## အခန်း (၃) الأسماء السّتة အကြောင်း

الأسماء السّتة (اسم (၆) မျိုး) ဟူသည်မှာ အောက်ပါ اسم များဖြစ်သည်။

أَخٌ (အစ်ကို) أَبٌ (အဖေ) حَمٌ (မတ်/ခဲအို)

هَنٌ (အရှက်) فَمٌ (ပါးစပ်) ذُوْ (ပိုင်ဆိုင်သူ)

၎င်း اسم များကို .اَلأَسْمَاءُ السِّتَّةُ الْمُكَبَّرَةُ الْمُوَحَّدَةُ الْمُضَافَةُ إِلَى غَيْرِ يَاءِ الْمُتَكَلِّمِ ဟုခေါ်ဆိုသည်။

### ရှင်းလင်းချက်

(၁)ဖော်ပြပါ اسم များကို تصغير မပြုလုပ်ဘဲ မူလအတိုင်း ထားခြင်းကို مُكَبَّرَةٌ ဟုခေါ်သည်။

(၂) ထို اسم များ၏ مفرد အဖြစ်ထားခြင်းကို مُوَحَّدَةٌ ဟုခေါ်သည်။

(၃) ထို اسم များသည် ياء المتكلّم မှအပ အခြား اسم တစ်ခုခုဘက်သို့ إضافة ဖြစ်နေရမည်။

ဤစည်းကမ်းချက်များနှင့်ကိုက်ညီပါက ဖော်ပြပါ اسم (၆) ခု၏ إعراب သည် အောက်ပါအတိုင်း လာရှိမည်။

حالة الرفع တွင် واو ဖြင့်၊ حالة النصب တွင် ألف ဖြင့်လာပြီး حالة الجر တွင် ياء ဖြင့် လာရှိမည်။ ဥပမာ .....

| ذُوْ | هَنٌ | فَمٌ | حَمٌ | أخ | أَبٌ | عامل | العلامة | الحالة الإعرابية |
|---|---|---|---|---|---|---|---|---|
| ذُوْمَالٍ | هَنُوْكَ | فَمُوْكَ | حَمُوْكِ | أَخُوْكَ | أبوكَ | هذا | بالواو | حالة الرفع |
| ذَامالٍ | هَنَاكَ | فَمَاكَ | حَمَاكِ | أخاكَ | أباكَ | رأيت | بالألف | حالة النصب |
| ذِيْ مَالٍ | هَنِيْكَ | فَمِيْكَ | حَمِيْكِ | أَخِيْكَ | أَبِيْكَ | إلى | بالياء | حالة الجرّ |

အောက်ဖော်ပြပါ အခြေအနေများတွင် الأسماء الستة သည်ဖော်ပြခဲ့သော إعراب အခြေအနေများဖြင့် လာရှိမည်မဟုတ်ပါ။

(၁) ياء المتكلم ဘက်သို့ إضافة ဖြစ်သောအခါ

ဥပမာ - جاء أَبِيْ ، أُحِبُّ أَبِيْ

(၂) مثنى ဖြစ်သောအခါ

ဥပမာ - حَضَرَ أَخَوَاكَ ، إِنَّ أَخَوَيْكَ

(၃) جمع ဖြစ်သောအခါ

ဥပမာ - هؤُلَاءِ إِخْوَتُنَا ، إِلَى إِخْوَتِنَا

(၄) تَصْغِيْرٌ ဖြစ်သောအခါ

ဥပမာ - أُخَيُّكَ جَمِيْلٌ إِلٰى أُخَيِّكَ .

(၅) أَلْ ဝင်ရောက်သောအခါ

ဥပမာ - اَلْأَخُ حَبِيْبٌ

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများကို လေ့လာပါ။ ထို့နောက် ဘာသာပြန်ဆိုပါ။

ကျက်မှတ်ရန်စကားလုံးများ ---

يُعِيْنُ - ကူညီနေသည် شِدَّةٌ - အခက်အခဲ نَصَحَ အကောင်းလိုလားခြင်း

سَلَّمَ - စလာမ်မေတ္တာပို့သခြင်း تَفَكَّرَ - စဥ်းစားခြင်း/ တွေးခေါ်ခြင်း

أَبَرُّ - အကောင်းပြုဆုံးသူ قَذَفَ- စွပ်စွဲခြင်း صَانَ - ထိန်းသိမ်းခြင်း

لَغْوٌ - အဟောသိကအလုပ်/စကား وزن - ချိန်တွယ်ခြင်း لَفِظَ - ပြောခြင်း

| | | |
|---|---|---|
| (١) | حالة الرفع | أَخُوْكَ مَنْ يُّعِيْنُكَ فِي الشِّدَّةِ . |
| | حالة النصب | إِنَّ أَخَاكَ يَنْصَحُ لَكَ فِيْ أُمُوْرِكَ . |
| | حالة الجرّ | سَلِّمْ عَلٰى أَخِيْكَ . |
| (٢) | حالة الرفع | أَبُوْكَ أَحْسَنُ النَّاسِ إِلَيْكَ . |
| | حالة النصب | إِنَّ أَبَاكَ أَبَرُّ النَّاسِ بِكَ . |
| | حالة الجرّ | أُدْعُ لِأَبِيْكَ دُعَاءً خَيْراً . |
| (٣) | حالة الرفع | حَمُوْكِ أَبُو زَوْجِكِ . |
| | حالة النصب | كَأَنَّ حَمَاكِ أَبٌ لَكِ . |
| | حالة الجرّ | أَكْرِمِيْ عَلٰى حَمِيْكِ . |
| | حالة الرفع | هٰذَا حَمُوْهَا . |
| | حالة النصب | رَأَيْتُ حَمَاهَا . |
| | حالة الجرّ | مَرَرْتُ بِحَمِيْهَا . |
| (٤) | حالة الرفع | ذُو الْعَقْلِ يَتَفَكَّرُ فِيْ كُلِّ الْأُمُوْرِ . |
| | حالة النصب | لَا تَقْذِفْ ذَا الرَّأْيِ فِيْ جَنْبِكَ . |
| | حالة الجرّ | كُنْ مُعِيْناً لِذِي الْحَاجَةِ . |
| (٥) | حالة الرفع | فُوْكَ أَجْمَلُ مِنْ فَمِيْ . |
| | حالة النصب | صُنْ فَاكَ عَنْ لَغْوِ الْقَوْلِ . |
| | حالة الجرّ | زِنِ الْقَوْلَ قَبْلَ أَنْ تَلْفَظَهُ مِنْ فِيْكَ . |

၂။ အောက်ဖော်ပြပါ ဝါကျများမှ الأسـمـاء الستة ကို ရွေးထုတ်ပြပြီး ၎င်းတို့၏ بـإعراب အခြေအနေကို ပြောပါ။ ထို့နောက် မြန်မာဘာသာသို့ ပြန်ဆိုပါ။

**ကျက်မှတ်ရန်စကားလုံးများ**

أَسْنَانٌ - သွားများ　　مَحْسُوْدٌ - မနာလိုခံရသူ　　يُجِلُّ - ဂုဏ်ပေးလေးစားခြင်း

عَادِلٌ - တရားမျှတသောသူ　　مَاهِرٌ - ကျွမ်းကျင်သောသူ

(၁) أبوك طبيب ماهر .　　(၂) يُجِلُّ الناس أخاك.　　(၃) ذُوْ الْمَالِ مَحْسُوْدٌ.

(၄) فِيْ فِيْكَ أَسْنَانٌ بَيْضَاءُ .　　(၅) حَمُوْ فَاطمة عادل .

၃။ အသင်တို့ သင်ခန်းစာထဲမှ الأسماء الستة ပါသော جملة (၅) ခုစီရေးပါ။



## အခန်း (၄)

## اَلْمُثَنّٰى နှင့် အပေါင်းအပါတို့အကြောင်း

الـمثنّى (ဒွိကိန်း)နှင့် အပေါင်းအပါများဆိုသည်မှာ اثـنان - اثـنتان နှင့် كِـلْتَا ، كِلاَ တို့ဖြစ်သည်။ ၎င်းတို့အပေါ် (إعراب) သရဝင်ရောက်ပုံမှာ အောက်ပါအတိုင်းဖြစ်သည်။

حالة الرفع တွင် ألف ဖြင့်၊ حـالة النصب နှင့် حالة الجر တို့တွင် يـاء سـاكنة ماقبلها مفتوحة (يْ အလျင် فتحة) ဖြင့်လာရှိမည်။

ဥပမာ .....

| الحالة الإعرابية | العلامة | عامل | المثنى | اثنان | اثنتان | كلا | كلتا |
|---|---|---|---|---|---|---|---|
| حالة الرفع | بالألف | هذان | رِجُلاَن | اثنان | (هاتان) اِثْنَتَان | كِلاَهُمَا | (هاتان) كِلْتَاهُمَا |
| حالة النصب | ـَ يْ | رَأَيْتُ | رَجُلَيْنِ | اِثْنَيْنِ | اِثْنَتَيْنِ | كِلَيْهِمَا | كِلْتَيْهِمَا |
| حالة الجرّ | ـَ يْ | إلى | رَجُلَيْنِ | اِثْنَيْنِ | اِثْنَتَيْنِ | كِلَيْهِمَا | كِلْتَيْهِمَا |

မှတ်ချက်။ كِلاَ နှင့် كِـلْتَا တို့သည် ضـمير (နာမ်စား) နှင့်တွဲလျက် مـضـاف အဖြစ်နှင့် အသုံးပြုရမည်။ ၎င်းတို့အား مثـــنــــى ကို ပိုမိုလေးနက်စေရန် အသုံးပြုသည်။ အဓိပ္ပါယ်ပြန်ဆိုရာတွင် (နှစ်ခုလုံး/နှစ်မျိုးလုံး) ဟု ပြန်ဆိုရသည်။

ဥပမာ - سَلَّمْتُ عَلَى الرَّجُلَيْنِ كِلَيْهِمَا (ကျွန်တော်ထိုသူနှစ်ဦးလုံးကို စလာမ်ပေးခဲ့သည်။)

الـمثنى ၏နောက်ဆုံးတွင်ပါရှိသော نون သည် အမြဲတမ်း مكسورة နှင့် ဖြစ်မည်။

ဥပမာ - سَلَّمْتُ عَلَى الرَّجُلَيْنِ كِلَيْهِمَا ، وَالْمَرْأَتَيْنِ كِلْتَيْهِمَا ، وَاثْـنَـيْنِ مِنَ الْوَلَدِ وَاثْـنَـتَـيْنِ مِنَ الْبِنْتِ

## မုထန္နာ ပြုလုပ်နည်း

| ابْنٌ | မှ | ابنان | သား | بنتٌ | မှ | بنتان | သမီး |
|---|---|---|---|---|---|---|---|
| نَافِذَةٌ | မှ | نَافِذَتَان | ပြူတင်းပေါက် | بابٌ | မှ | بابان | တံခါး |
| يَدٌ | မှ | يَدَان | လက် | أبٌ | မှ | أبَوَان | ဖခင် |
| عَينٌ | မှ | عَينَان | မျက်လုံး | عَصَا | မှ | عَصَوَان | တုတ် |
| فَتًى | မှ | فَتَيَان | လုလင်ပျို | حُسْنَى | မှ | حُسْنَيَان | လှပသူမ |
| مُسْتَشْفىً | မှ | مُسْتَشْفَيَان | ဆေးရုံ | النَّادِي | မှ | النَّادِيَان | အစီအစဉ် |
| المُتَنَاجِي | မှ | المُتَنَاجِيَان | တိုးတိုးစွာပြောသူ | القَاضِيْ | မှ | القَاضِيَان | တရားသူကြီး |
| المُحَامِيْ | မှ | المُحَامِيَان | ရှေ့နေ | سَمَاءٌ | မှ | سَمَاوَان | မိုးကောင်းကင် |

မှတ်ချက်။ ။ كلا နှင့် كلتا တို့သည် اسم ظاهر ဘက်သို့ إضافة ဖြစ်ပါက حالة (၃)ခုစလုံးတွင် إعراب မပေါ်လွင်ပဲ مُقَدَّرٌ အဖြစ်နှင့်လာရှိမည်။ ဥပမာ ---

| حالة الرفع | كِلْتَا الجَنَّتَيْنِ آتَتْ أُكُلَهَا. | ဥယျာဉ်နှစ်ခုလုံးသည် မိမိတို့အသီးများကို ဝေဆာစေသည်။ |
|---|---|---|
| حالة النصب | إِنَّ كِلَا الْأَمْرَيْنِ عَلَى هَدَفٍ وَاحِدٍ. | ကိစ္စနှစ်ခုလုံးသည် ရည်ရွယ်ချက်တည်ခုတည်းပေါ်တွင်ရှိသည်။ |
| حالة الجرّ | لكلا الْأَمْرَيْنِ هَدَفٌ وَاحِدٌ . | ကိစ္စနှစ်ခုလုံးအတွက် ရည်ရွယ်ချက်တစ်ခုသာရှိသည်။ |

မှတ်ချက်။ ။ مثنى တစ်ခုသည် الـمتـكلم يـاءဘက်သို့ إضافـة ဖြစ်ပါက ၎င်း၏ إعرابမှာ အောက်ပါအတိုင်းဖြစ်သည်။ ဥပမာ ---

| حالة الرفع | قَلَمَايَ | ကျွန်တော်၏ကလောင် (၂)ချောင်း |
|---|---|---|
| حالة النصب | رَأَيْتُ قَلَمَيَّ | ကျွန်တော်၏ ကလောင် (၂)ချောင်း ကိုတွေ့ခဲ့သည်။ |
| حالة الجرّ | كَتَبْتُ بِقَلَمَيَّ | ကျွန်တော်၏ကလောင် (၂)ချောင်းဖြင့် ရေးခဲ့သည်။ |

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများ၏ إعراب အခြေအနေကို ပြောပါ။ ထို့နောက် ဘာသာပြန်ဆိုပါ။

**ကျက်မှတ်ရန်စကားလုံးများ**

غَمَّضَ - ပိတ်ပေးခြင်း    دَفْتَرٌ - ကော်ပီစာအုပ်    ضاع - ပျက်စီးသွားခြင်း

غَسَلْتُ الرِّجْلَيْنِ .    غَمَّضْتُ الْعَيْنَيْنِ .    دَعَوْتُ الصَّدِيْقَيْنِ.    سَأَلْتُ الزَّمِيْلَيْنِ .

رَفَعْتُ الْيَدَيْنِ .    الْأُسْتَاذَانِ مِنْ مِصْرَ .    أَيْنَ وَجَدْتَ الدَّفْتَرَيْنِ ؟    ضاع قَلَمَانِ

ذَهَبْتُ إِلَى مَكَّةَ مَعَ أَبَوَيْنِ    إِنَّ الْأَخَوَيْنِ عَالِمَانِ جَلِيْلَانِ .

## အခန်း (၅)

## جمع المذكر السالم နှင့်အပေါင်းအပါတို့ အကြောင်း

جمع المذكر السالم ဆိုသည်မှာ اسم တစ်ခု၏ အဆုံးတွင် واو နှင့် نون တို့၍ جمع ပြုလုပ်ထားသော اسم ကို ခေါ်ပါသည်။

ဥပမာ - مسلمٌ မှ مسلمونَ - مؤمنٌ မှ مؤمنونَ - صائمٌ မှ صائمونَ

راكع မှ راكعون - قانتٌ မှ قانتونَ - ذاكرٌ မှ ذاكرونَ

၎င်း၏ အပေါင်းအပါများဆိုသည်မှာ ......

(၁) عِشْرُوْنَ မှ تِسْعُوْنَ ထိ (၁၀) ဂဏန်းများ

(၂) أُوْلُوْ ( ذُوْ ၏ အများကိန်း) ပိုင်ရှင်များ

(၃) أرض မှ أرضون (မြေကြီး) - سَنَةٌ မှ سِنُوْنَ (ခုနှစ်) တို့ဖြစ်သည်။

جمع المذكر السالم နှင့် အပေါင်းအပါတို့၏ إعراب သရပြောင်းလဲပုံမှာ အောက်ပါအတိုင်းဖြစ်ပါသည်။

حالة الرفع တွင် واوٌ ساكنةٌ အလျှင် ضمّة ဖြင့်၊ حالة النصب နှင့် حالة الجرّ တွင် ياء ساكنة အလျှင် كسرة ရှိသောပုံစံဖြင့်လာမည်။

ဥပမာ .....

| الحالة الإعرابية | العلامة | عامل | جمع المذكر السالم | عشرون وبابه | أولو | سنون | أرضون |
|---|---|---|---|---|---|---|---|
| حالة الرفع | بالواو | هؤلاء | مسلمُوْنَ | عشرُوْنَ رجلاً | أُوْلُوْمَالٍ | سِنُوْنَ | أَرْضُوْنَ |
| حالة النصب | ـِيْ | رَأَيْتُ | مُسْلِمِيْنَ | عشْرِيْنَ رَجُلاً | أُوْلِيْ مَالٍ | سِنِيْنَ | أَرْضِيْنَ |
| حالة الجرّ | ـِيْ | إلى | مُسْلِمِيْنَ | عشْرِيْنَ رَجُلاً | أُوْلِيْ مَالٍ | سِنِيْنَ | أَرْضِيْنَ |

မှတ်ချက်။ ။ جمع المذكر السالم ၏နောက်ဆုံးတွင်ပါရှိသော نون သည် အမြဲတမ်း مفتوحة ဖြစ်မည်။

ဥပမာ - مُسْلِمُوْنَ ၊ مُؤْمِنُوْنَ

## လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများမှ جمع المذكر السالم များကို ရွေးထုတ်ပြီး အဓိပ္ပါယ်ပြန်ဆိုပါ။

**ကျက်မှတ်ရန် စကားလုံးများ**

جُنْدٌ - စစ်တပ်    غَالِبٌ - အောင်နိုင်သူ    الْمُعْتَدُوْنَ - စည်းဘောင်ကျော်သူများ

الْأَعْلَوْنَ - ထိပ်ဖျား/ဘုံဖျားတွင်စံမြန်းသူများ    طَامِعُوْنَ - လောဘရမ္မက်နေနေတက်သူများ

يواجه - မျက်နှာချင်းဆိုင်တွေ့ဆုံခြင်း    الْعِقَابُ - အပြစ်ဒဏ်

الْمَصَاعِبُ - ဒုက္ခ/အခက်အခဲများ    الرفاؤون - ချုပ်လုပ်/ဖာထေးသူများ

بَرَاعَةٌ - ကျွမ်းကျင်ပိုင်နိုင်ခြင်း    إصلاح - ပြုပြင်ခြင်း

نعجة - သိုးမ    قِيْدَ - အတိုင်းအတာ    شِبْرٌ - တစ်ထွာ

طَوَّقَ - ကြိုးကွင်းစွပ်ပေးခြင်း    لَبِثَ - နေထိုင်ခြင်း    عَدَدٌ - အရေအတွက်

(١) ﴿وإنّ جندنا لهم الغالبون .﴾

(٢) ﴿إن اللّٰه لايحب المعتدين .﴾

(٣) ﴿إن اللّٰه اشترى من المؤمنين أنفسهم وأموالهم بأنّ لهم الجنة .﴾

(٤) ﴿ وأنتم الأعلون إن كنتم مؤمنين .﴾

(٥) الطّامعون المعتدون سيذهبون مع الرياح .

(٦) يواجه المصلحون العقاب والمصاعب راضين .

(٧) الرفّاؤون لهم براعة في إصلاح الثياب .

(٨) ﴿ لَهٗ تِسْعٌ وَتِسْعُوْنَ نَعْجَةً﴾

(٩) ((من ظلم قِيْدَ شِبْرٍ مِنْ أرض طَوَّقَهٗ اللّٰه يوم القيامة من سبع أرضين)).

(١٠) ﴿ كَمْ لَبِثْتُم في الْأَرْضِ عدد سِنِيْنَ ﴾.

၂။ အသင်တို့သင်ခန်းစာထဲမှ جمع المذكر السالم ပါသော ဝါကျ (၅) ခုကို ရွေးထုတ်ပြပါ။

## အခန်း (၆)

## الاسم المضاف إلى ياء المتكلم နှင့် الاسم المقصور အကြောင်း

(၁) الاسم المقصور ဟူသည်မှာ اسم معرب တစ်ခု၏နောက်ဆုံးတွင် အမြဲတည်ရှိနေမည့် ألف مقصورة ရှိသော اسم ကိုခေါ်သည်။

ဥပမာ - المستشفى - العَصَا - الفتى

(၂) الاسم المضاف إلى ياء المتكلم ဆိုသည်မှာ- جمع المذكر السالم မှအပ ကျန် اسم များအနက် တစ်ခုခုသည် ياء المتكلم ဘက်သို့ إضافة ဖြစ်သောပုံစံကိုခေါ်ဆိုသည်။ ဤပုံစံကို الاسم المضاف إلى ياء المتكلم غير الجمع المذكر السالم ဟုခေါ်သည်။

ဥပမာ- كُتُبِيْ - كِتَابِيْ

အဆိုပါ اسم (၂) မျိုးစလုံး၏ إعراب လာရှိပုံမှာ ----

كسرة مقدرة حالة الجرّ တွင် ، فتحة مقدرة حالة النصب တွင် ، ضمّة مقدرة حالة الرفع တွင် مقدرة တို့ဖြင့် လာရှိမည်။ ဥပမာ .....

| الحالة الإعرابية | العلامة | عامل | الاسم المقصور | المضاف إلى ياء المتكلم غير الجمع المذكر السالم |
|---|---|---|---|---|
| حالة الرفع | ضمة مقدرة | هذا | الْفَتَى | بَيْتِيْ |
| حالة النصب | فتحة مقدرة | رَأَيْتُ | الْفَتَى | بَيْتِيْ |
| حالة الجرّ | كسرة مقدرة | إلى | الْفَتَى | بَيْتِيْ |

မှတ်ချက်။ ။ الاسم المقصور တွင် (ال) ပါဝင်မှသာ အထက်ပါ إعراب အတိုင်းလာရှိမည်။ (ال) မပါဝင်ပါက تنوين နှင့်သာ လာရှိမည်။ ဥပမာ - هذا فتًى - رأيت فتًى - إلى فتًى

### လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများကို စဉ်းစားပါ။ ထို့နောက် သင်ခန်းစာနှင့်သက်ဆိုင်သည့် ဥပဒေများကို ထုတ်ပြပြီး အဓိပ္ပါယ်ပြန်ဆိုပါ။

**ကျက်မှတ်ရန် ခက်ဆစ်များ**

الأذى - ဒုက္ခ    وَفِيٌّ - သစ္စာရှိသောသူ    مُقْمِرَةٌ - လသာသောည    الغَرْقُ - နစ်မြုတ်ခြင်း

اتكأ (على) - အမှီပြုခြင်း    مَمَاتٌ - သေခြင်း    مَحْيَا - ရှင်သန်ခြင်း    نُسُكٌ - ကိုးကွယ်မှု

نَصِيْبٌ - ဝေစု    عطف (على) - ကြင်နာခြင်း    قام (ب) - အကောင်အထည်ဖော်ခြင်း

| | |
|---|---|
| حالة الرفع | نجا الفتى من الغرق - ضاعت العصا - كانت لياليَّ في السفر مقمرة - أنتما صاحباي الوفيان . |
| حالة النصب | نجيت الفتى من الغرق - أضعت العصا - منعت الأذى - إن عصاي لجميلة . إن صلاتي و نسكي و محياي و مماتي لله رب العالمين . |
| حالة الجرّ | رضيت عن الفتى - اتكأت على العصا - سلمت من الأذى - قمت بنصيبي من العمل - أعطف على الفقير بصدقاتي . |

## အခန်း (၇)
## الاسم المنقوص အကြောင်း

المنقوص ဟူသည်မှာ اسم معرب တစ်ခု၏နောက်ဆုံးတွင် အမြဲတည်ရှိနေမည့် ياء ساكنة နှင့် ၎င်းအလျင် كسرة ရှိသော ပုံစံကို ခေါ်ပါသည်။

ဥပမာ - اَلْقاضِيْ ـ المحامِيْ ـ الثانِيْ ـ الماضِيْ ـ الوادِيْ ـ المعانِيْ

အဆိုပါ اسم တွင် إعراب ဝင်ရောက်ပုံမှာ---

حالة الرفع တွင် ضمّة مقدرة ၊ حالة النصب တွင် فتحة ظاهرة ၊ حالة الجرّ တွင် كسرة مقدرة ဖြင့် လာရှိမည်။

ဥပမာ - سأل القاضِيْ المحامِيَ عن الجانِيْ .

(တရားသူကြီးသည် ရှေ့နေအား တရားခံနှင့်ပတ်သက်၍ မေးခဲ့သည်။)

| الحالة الإعرابية | العلامة | عامل | الاسم المنقوص |
|---|---|---|---|
| حالة الرفع | ضمة مقدرة | هذا | اَلْقَاضِيْ |
| حالة النصب | فتحة ظاهرة | رَأَيْتُ | اَلْقَاضِيَ |
| حالة الجرّ | كسرة مقدرة | إلى | اَلْقَاضِيْ |

မှတ်ချက်။ ။ الاسم المنقوص တွင် أل ဝင်ရောက်မှသာ အထက်ပါ إعراب ပုံစံ အတိုင်း လာမည်။ أل မပါလျှင်المنقوص ၏နောက်ဆုံးတွင်ပါသော ياءပြုတ်သွားမည်ဖြစ်ပြီး حالة الرفع နှင့် حالة الجرّ တွင် ပြုတ်ထားသော ياء ၏အစား كسرتان နှင့်လာရှိပြီး حالة النصب တွင်မူ ياء ၏အပေါ်၌ فتحة ပေါ်လွင်စွာဖြင့်လာရှိမည်။

ဥပမာ - هذا قَاضٍ ـ رأيتُ قَاضِيًا ـ إلى قاضٍ

### လေ့ကျင့်ခန်း

၁။ အောက်ပါကဗျာကိုအဓိပ္ပါယ်ပြန်ပါ။ ထို့နောက် ကဗျာတွင်ပါဝင်သည့် ဥပဒေများကို ရေးပါ။

**ကျက်မှတ်ရန်စကားလုံးများ**

شكوتُ - ကျွန်တော်တိုင်တမ်းခဲ့သည်/ရင်ဖွင့်ခဲ့သည်။ وكيعٌ - အေမာမ်ရှာဖေ့အီ၏ဆရာ
سوء الحفظ - မှတ်ဉာဏ်မကောင်းခြင်း أرشد - လမ်းညွှန်ခြင်း المعاصي - ဒုစရိုက်များ
نُوْرٌ - လင်းရောင်ခြည် يَهْدِي - လမ်းပြခြင်း عَاصٍ - အမိန့်ဖီဆန်သူ
الوادي - လျှိုမြောင် أصغى (إلى) - အာရုံစိုက်နားထောင်ခြင်း
الملاَهيْ - အရှင်မြတ်ကို မေ့လျော့စေသော တေးဂီတများ

شَكَوتُ إلَى وَكِيعٍ سُوءَ حِفظِيْ ☆ فَأَرشَدَنِي إلَى تَركِ المَعَاصيْ
وَ أخبَرَنِيْ بأَنَّ العِلمَ نُورٌ ☆ و نورُ اللهِ لا يُهْدَى لعاصٍ

၂။ အောက်ပါဝါကျများတွင်ပါရှိသည့် ဥပဒေများကို إعراب အခြေအနေနှင့်တကွရှင်းပြပါ။

عدل القاضي ـ نزلت الوادي ـ أصغيت إلى الراعي ـ استماع الملاهيْ معصية

## အခန်း (၈)

## جَمْعُ المذَكرِ السالمُ المُضافُ إلى ياءِ المتكلمِ - အကြောင်း

جـمـع المذكر السالم المضاف إلى ياء المتكلم သည် جـمـع الـمـذكر السالم - ဟူသည်မှာ ياء المتكلم ဘက်သို့ إضافة ဖြစ်သည့်ပုံစံကိုဆိုလိုသည်။

ဥပမာ - مُسْلِمِيَّ

جمع المذكر السالم နှင့် ياء المتكلم တို့၏မူလပုံစံကို ဤသို့တွေ့မြင်နိုင်ပါသည်။

مُسْلِمُوْنَ + يَ

ဥပဒေအရ جمع المذكرالسالم ၏ نون သည် إضافة ဖြစ်သည့်အခါပြုတ်ကျသွားသည်။ထို့ကြောင့် مُسْلِمُوْىَ ဖြစ်သွားသည်။

ယခု كـلـمة တစ်ခုတည်းတွင် وٌاو နှင့် يـاءٌ တို့ ဆုံလာတော့သည်။ ထိုနှစ်ခုအနက် ပထမအက္ခရာ ဖြစ်သော وٌاو သည် ساكنة ဖြစ်နေသည်။ သို့ပါ၍ ယင်း ساكنةٌ واوٌ ကို ياءٌ နှင့်ပြောင်းပြီး ယင်း ساكنةٌ ياءٌ ကို متحرّكةٌ ياءٌ တွင် إدغام ပြုလုပ်လိုက်သည်။ ထို့ကြောင့် مُسْلِمُيَّ ဖြစ်သွားသည်။

တဖန် مُسْلِمُيَّ တွင် إدغام ပြုလုပ်ထားသည့် يـاء နှစ်ခု၏အလျင်ရှိသော مـيـم ၏ ضـمة ကို ياء နှင့် သဟဇာတဖြစ်စေရန်အတွက် كسرة ဖြစ်ပြောင်းလိုက်သည်။ သို့ပါ၍ مُسْلِمِيَّ ဖြစ်သွားသည်။

مُسْلِمُوْنَ يَ ← مُسْلِمُوْيَ ← مُسْلِمُيَّ ← مُسْلِمِيَّ

ဥပဒေအရ ဤသို့ပြုလုပ်ပြီးနောက် جمع المذكرالسالم المضاف إلى ياء المتكلم တွင် إعراب ဝင်ရောက်ပုံမှာ …… حـالة الرفع တွင် واو مقدرة (ဖုံးကွယ်နေသော واو ဖြင့်)၊ حـالة النصب နှင့် حالة الجرّ တို့တွင် ياء ပေါ်လွင်စွာလာရှိမည်။

| الحالة الإعرابية | العلامة | عامل | جمع المذكر السالم المضاف إلى ياء المتكلم |
|---|---|---|---|
| حالة الرفع | بالواو المقدرة | هؤلاء | مُسْلِمِيَّ |
| حالة النصب | بالياء المقدرة | رَأَيْتُ | مُسْلِمِيَّ |
| حالة الجرّ | بالياء المقدرة | إلى | مُسْلِمِيَّ |

### လေ့ကျင့်ခန်း

၁။ အောက်ပါဝါကျများ၏ အဆင့်ဆင့်ပြောင်းလဲပုံများကို ဖော်ပြပြီး အဓိပ္ပါယ်ပြန်ဆိုပါ။

مُخْرِجِيَّ - مُصْلِحِيَّ - ظالِمِيَّ - مُرَبِّيَّ - مُحْسِنِيَّ

၂။ အသင့်ဘက်မှ جمع المذكر السالم المضاف إلى ياء المتكلم ပါသောဝါကျ (၅) ခုရေးပါ။

## အခန်း (၉)

## غير المنصرف အကြောင်း

غير المنصرف - ဆိုသည်မှာ تنوين နှင့် أل ကို လက်မခံသော اسم ကိုခေါ်သည်။ غير المنصرف ဖြစ်ရန်အကြောင်းခံ (၉)ခုအနက်မှ(၂)ခု(သို့) (၂)ခု၏ ကိုယ်စားရပ်တည်သော အကြောင်းခံ တစ်ခုခုရှိရမည်။

غير المنصرف - တွင် إعراب ဝင်ရောက်ပုံမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

حالة الرفع တွင် ضمة ဖြစ်၍ ၊ حالة النصب နှင့် حالة الجرّ တို့တွင် فتحة ဖြစ်လာရှိမည်။ ဥပမာ -

| الحالة الإعرابية | العلامة | عامل | غير المنصرف |
|---|---|---|---|
| حالة الرفع | بالضمة | هذا | عُمَرُ |
| حالة النصب | بالفتحة | رَأَيْتُ | عُمَرَ |
| حالة الجرّ | بالفتحة | إلى | عُمَرَ |

## أسباب غير المنصرف အကြောင်း

## غير المنصرف ဖြစ်ရန် အကြောင်းခံ (၉) ခု အကြောင်း

غير المنصرف ဖြစ်ရန် အကြောင်းခံ (၉)ခုဆိုသည်မှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) اَلْعَدْلُ (၂) الْوَصْفُ (၃) التَّأْنِيْثُ
(၄) الْمَعْرِفَةُ (၅) الْعُجْمَةُ (၆) الْجَمْعُ
(၇) التركيب الْمَزْجِي (၈) الألف والنون الزائدتان (၉) وَزْنُ الْفِعْلِ

အထက်ပါအကြောင်းခံ (၉) ခု ကို အောက်ပါအတိုင်းလွယ်ကူစွာ မှတ်သားနိုင်ပါသည်။

(١) وَزْنُ الْمُرَكَّبِ عُجْمَةٌ تَعْرِيْفُهَا ☆ اِعْدِلْ وَوَصْفُ الْجَمْعِ زِدْ تَأْنِيْثُ

(٢) جَمْعٌ وَوَزْنٌ وَعَدْلٌ وَصْفُ مَعْرِفَةٍ ☆ تَرْكِيْبٌ عُجْمَةٌ تأنيثٌ زِيَادَتُهَا

## (၁) اَلْعَدْلُ အကြောင်း

عـــــــــدل ဆိုသည်မှာ စာလုံးတစ်လုံးသည် မိမိ၏မူလပုံစံမှ အခြားပုံစံသို့ ပြောင်းလဲ သွားခြင်းကို ခေါ်ဆိုသည်။ထိုသို့ပြောင်းလဲရာတွင် မူရင်းအက္ခရာများနှင့်အဓိပ္ပါယ်များသည် ပြောင်းလာသည့်ပုံစံ၌လည်း ကျန်ရှိနေရမည် ဖြစ်သည်။

ဥပမာ - عُمَرُ မှ عامِرٌ

( ر م ع ) တို့သည် မူရင်းများဖြစ်သည်။ ယင်းအက္ခရာ(၃)လုံးမှာ (၂) နေရာလုံးတွင်ပါဝင်နေသည်။ အဆိုပါပြောင်းလဲမှုသည် (၂)မျိုးရှိသည်။

(၁) عدل تحقيقي (၂) عدل تقديري

(၁) عـدل تـحـقيقي ဆိုသည်မှာ اسم တစ်ခု၏ မူလပုံသဏ္ဌာန်မှ အခြားပုံသဏ္ဌာန်သို့ အစစ်အမှန် ပြောင်းလဲခြင်းကိုခေါ်သည်။

ثُلاثَ (၃ - ယောက်စီ) သည် ثلاثة - ثلاثة မှ ပြောင်းလဲလာသည်။

مَثْلَثَ သည်လည်း ثلاثة - ثلاثة မှ ပြောင်းလဲလာသည်။

أُحادَ (တစ်ယောက်စီ) သည် أَحَدٌ - أحد မှ ပြောင်းလဲလာသည်။

ဥပမာ-.دَخَلَ الطُّلَّابُ الْفَصْلَ أُحَادَ (أي: واحدا واحدا)

(ကျောင်းသားများသည် အတန်းထဲသို့ 'တစ်ဦးချင်းစီ' ဝင်ခဲ့သည်။)

مَوْحَدَ သည်လည်း أحد - أحد မှ ပြောင်းလဲလာသည်။

ဥပမာ - دخلت الطالبات الفصل مَوحَد (أي: واحدة واحدة) -

(ကျောင်းသူများသည် အတန်းထဲသို့ 'တစ်ဦးချင်းစီ' ဝင်ခဲ့သည်။)

ثُنَاءَ သည် اثنان - اثنان မှ ပြောင်းလဲလာသည်။

ဥပမာ- سار الجنوْدُ ثُنَاءَ (أى اثنين اثنين) (စစ်တပ်သည် နှစ်ဦးချင်းစီ သွားခဲ့သည်။)

مَثْنَى သည်လည်း اثنان - اثنان မှ ပြောင်းလဲလာသည်။

ဥပမာ- ذهب الطلاب إلى المسجد مثنى (أي : اثنين اثنين)

رُبَاعَ - مَرْبَعَ သည် أَرْبَعٌ - أَرْبَعٌ မှ ပြောင်းလဲလာသည်။

ဥပမာ- جاء نى القومُ رُباعَ ၏ အဓိပ္ပါယ်မှာ - جاء نيْ القوم أربعا أربعا ကဲ့သို့ဖြစ်ပါသည်။

(လူစုကြီးသည် ကျွန်ုပ်ထံသို့ လေးဦးစီ လေးဦးစီလာခဲ့သည်။)

أُخَرُ သည် آخَرُ မှ ပြောင်းလဲလာသည်။

جُمَعُ သည် جُمْعٌ (فُعْلٌ )မှ သော်လည်းကောင်း၊ (သို့) جَمَاعِيْ (فَعَالِيْ ) မှသော်လည်းကောင်း၊ (သို့) جَمْعَاوَاتٌ (فَعْلَاوَاتٌ ) မှသော်လည်းကောင်း ပြောင်းလဲလာသည်။

ثُلاثَ - مَثْلَثَ - أُحَادَ - مَوْحَدَ - ثُنَاءَ - مَثْنَى - رُبَاعَ - စသည်တို့တွင် غـيـرمـنـصـرف ဖြစ်ရန် (سـبـب) အကြောင်းခံ(၂)ခုရှိသည်။

(၁) عدل تحقيقي (၂) وصفيّة ဝိသေသဖြစ်မှု တို့ဖြစ်သည်။

(၂)　عـدل تـقـديـريٌّ ဆိုသည်မှာ اسـم တစ်ခု၏ မူလပုံသဏ္ဍာန်မှ အခြားပုံသဏ္ဍာန်သို့ သဘောအရ ပြောင်းလဲခြင်းကိုခေါ်သည်။

عُـمَـرُ သည် عَـــامِـرٌ မှလည်းကောင်း၊ زُفَـرُ သည် زَافِـرٌ မှလည်းကောင်း၊ زُحَـلُ သည် زَاحِـلٌ မှလည်းကောင်း သဘောတရားအရပြောင်းလဲလာသည်ဟု သတ်မှတ်ထားခြင်းသာဖြစ်သည်။

ယျွဖေါ်ပြခဲ့သောဥပမာများတွင် غيرمنصرف ဖြစ်နိုင်ရန် سبب အကြောင်းခံ (၂)ခုမှာ……

(၁) العلمية - တစ်ဦးဆိုင်နာမ်ဖြစ်ခြင်း　　(၂) العدل التقديري တို့ဖြစ်သည်။

## الوَصْفُ (၂)

وصف ဆိုသည်မှာ ဝိသေသကိုသာ ဖေါ်ညွှန်းပြသရန် အတည်ပြုထားသော اسمကို ခေါ်သည်။

ဥပမာ- أحمر - အနီရောင်　　أفضل - အမြတ်ဆုံး　　أسود - အနက်ရောင်

أعظم - အကြီးဆုံး　　أحسن - အကောင်းဆုံး

## التأنيث (၃)

تـأنـيـث အကြောင်းကို သင်ခန်းစာ (၆) တွင် အသေးစိတ်ဖော်ပြခဲ့ပြီးဖြစ်သည်။ ယခုဤနေရာတွင် تأنيث ၏ အချို့သော ကဏ္ဍများကိုဖော်ပြသွားပါမည်။

تأنيث لفظي - ၏ သင်္ကေတ (၂) မျိုးရှိသည်။

(၁) تاء مربوطة　　(၂) ألف مقصورة /ممدودة

(၁) اسـم တစ်ခုတွင် تـأنـيـثသင်္ကေတဖြစ်သော تــاء مـربـوطة ပေါ်လွင်ထင်ရှားစွာ တွေ့ရှိရပါက ၎င်းကို تأنيث بالتاء ဟုခေါ်သည်။

ဥပမာ - طلحة ، فاطمة ، مكة ، عبادة

تـأنـيـث بالتاء ပါရှိသော اسم တစ်ခု غـيـرمنصرف ဖြစ်ရန်အရေးကြီးသောစည်းကမ်းချက်မှာ عَلَمٌ ဖြစ်ရမည်။

ဥပမာ - طلحة ، فاطمة ، آمنة

(၂) اسم တစ်ခု၏နောက်ဆုံးတွင် ألف مـقـصـورة နှင့် ألف مـمدودة တို့ရှိပါက تـأنـيـث بالألف المقصورة أو الألف الممدودة ဟု ခေါ်ဆိုသည်။

ဥပမာ - حُبْلَى - حَمْرَاءُ

မှတ်သားရန်(၁)

اسم တစ်ခု၏အဆုံးတွင် ألف مقصورة (သို့) ألف ممدودة တို့ရှိနေခြင်းသည် غيرمنصرف ဖြစ်ရန်အတွက် လိုအပ်သော سبب (၂)ခု၏ကိုယ်စားဖြစ်မည်။

ထို ألف مقصورة နှင့် ألف ممدودة တစ်ခုတိုင်းသည် سبب နှစ်ခုကိုယ်စား ရပ်တည်နေခြင်းမှာ ထို ألف တို့သည် ...... (၁) تأنيث ၏ သင်္ကေတဖြစ်ခြင်း

(၂) မိမိတို့ပါရှိသော اسم တွင် အမြဲရပ်တည်နေခြင်း တို့ကြောင့်ဖြစ်သည်။

ထို့ကြောင့်အခြား سبب များ မလိုတော့ဘဲ ألف مقصورة နှင့် ألف ممدودة သည်ပင် سبب (၂)ခု၏ကိုယ်စား ရပ်တည်ခြင်းဖြစ်သည်။

ဥပမာ- سلمٰى ، بُشرٰى ، حَسْناء ، صَحراء ، حُبْلٰى ، شُعَراء

မှတ်သားရန်(၂)

تأنيث معنوي တွင်လည်း تأنيث لفظي بالتاء ကဲ့သို့ပင် غيرمنصرف ဖြစ်ရန်အတွက် علم ဆိုသည့် အကြောင်းခံရှိရမည်။

ထို့အတူ تأنيث معنوي ရှိသော اسم တစ်ခုသည် غيرمنصرف ဖြစ်ရန် အောက်ပါစည်းကမ်းချက်များရှိနေရမည်။

(၁) အက္ခရာ (၃)လုံးထက်ပိုရမည်။

ဥပမာ - زَيْنَبُ

(၂) အက္ခရာ (၃)လုံးတည်းရှိပါက အလယ်အက္ခရာသည် متحرك ဖြစ်ရမည်။

ဥပမာ- سَقَرُ ، لَظٰى

မှတ်သားရန်(၃)

အကယ်၍ تأنيث معنوي ဖြစ်သော اسم သည် ......

(၁) အက္ခရာ(၃)လုံးဖြင့် ဖွဲ့စည်းထားမည်။

(၂) အလယ်အက္ခရာသည်လည်း ساكن ဖြစ်မည်ဆိုပါက منصرف နှင့် غيرمنصرف နှစ်မျိုးလုံး ဖြစ်နိုင်သည်။

ဥပမာ- هِنْدٌ أو (هِنْدُ) تَلْبَسُ الْحِجَابَ.

(ဟင်န်ဒ်အမည်ရှိအမျိုးသမီးသည် ဟိဂျာဗ်ဝတ်ရုံဝတ်ဆင်ထားသည်။)

هٰذه هِنْدُ ، وَرَأَيْتُ هِنْدَ ، وَأُعْجِبْتُ بِهِنْدَ.

هذه هِنْدٌ ، وَرَأَيْتُ هِنْداً، وَأُعْجِبْتُ بِهِنْدٍ

## (၄) اَلْعَلَمُ – တစ်ဦးဆိုင်နာမ်

အတိအကျအမည်မှည့်ခေါ်ခြင်းခံရသော اسم တိုင်းကို علم ဟု ခေါ်သည်။

ဥပမာ - أحمد ، إبراهيم ، عُمَر ، عثمان ، زينب ،

طلحة ، فاطمة ، بَعَلَبَكَّ مَكَّة ، دِمَشْق .

## العُجْمَةُ (၅)

အရဗီဘာသာစကားမဟုတ်သော စကားလုံးကို عُجْمَةٌ ဟုခေါ်သည်။

ဥပမာ - يَعْقُوْبُ ، سُقْرَاطْ ، إبراهيمُ ، إدْرِيْسُ

အထက်ပါဥပမာများတွင် يعقوب ، إدريس ، إبراهيم တို့သည် عِبْرَانِيْ (ဟီးဗရူး)ဘာသာစကားဖြစ်ပြီး سقراط သည် ဂရိဘာသာစကားဖြစ်သည်။

မှတ်သားရန်(၁)

عجمة ဖြစ်သော اسم တစ်ခုတွင် غير منصرف ဖြစ်ရန်အတွက် အောက်ပါစည်းကမ်းချက်များ ရှိရမည်။

(၁)မိမိဘာသာစကားတွင်လည်း علم ဖြစ်ရမည်။ အက္ခရာ(၃)လုံးထက်လည်းပိုရမည်။

ဥပမာ - إبراهيم

(၂) အက္ခရာသုံးလုံးဖြစ်ပါက အလယ်အက္ခရာသည် متحرك ဖြစ်ရမည်။

ဥပမာ- شَتَرُ (ခံတပ်တစ်ခု၏အမည်)

نُوْحٌ တွင်အလယ်အက္ခရာ ساكن ဖြစ်နေသည့်အတွက် منصرف ဖြစ်သည်။

မှတ်သားရန်(၂)

နဗီတမန်တော် محمدٌ ၊ شعيبٌ ၊ صالحٌ ၊ هودٌ (عليهم السلام ) တို့မှအပ ကျန်ရှိသော နဗီတမန်တော်အားလုံးတို့၏ အမည်နာမတော်များသည် عجمي အမည်များဖြစ်သည်။

## (၆) الجَمْعُ – အများကိန်းနာမ်

غير منصرف အခန်းတွင် ပါရှိသော جمع ဆိုသည်မှာ (منتهى الجموع) جمع ၏ နောက်ဆုံးပုံစံကိုခေါ်ဆိုသည်။ ၎င်း၏ وزن မှာ (၂)ခုရှိသည်။

(၁) مَفَاعِلُ ဥပမာ - دَرَاهِمُ، مَسَاجِدُ

(၂) مَفَاعِيْلُ ဥပမာ - مَصَابِيْحُ ، مَفَاتِيْحُ

اسم တစ်ခု၏ جمع منتهى المجموع ဖြစ်နေခြင်းသည် غيرمنصرف ဖြစ်ရန်အတွက် လိုအပ်သော سبب (၂)ခု၏ကိုယ်စားဖြစ်မည်။ ထိုသို့ရပ်တည်ရခြင်းမှာ ......

(၁) ထပ်မံ جمع ပြုလုပ်၍မရခြင်း

(၂) جمع ပုံစံဖြင့်သာ အမြဲရပ်တည်နေခြင်း

ထို့ကြောင့်အခြား سبب များ မလိုတော့ဘဲ جمعُ منتهى الجُموعِ ဖြစ်ခြင်းသည်ပင် سبب (၂)ခု၏ကိုယ်စား ရပ်တည်နေခြင်းဖြစ်သည်။

## التركيب المزجي (၇)

تركيب مَزْجِيٌّ ဟူသည်မှာ كلمة နှစ်ခုကို မည်သည့် ဥပဒေမှမရှိဘဲ كلمة တစ်ခုအဖြစ် ပေါင်းစပ်ခြင်းကိုခေါ်ဆိုသည်။

تركيب مزجي ဖြစ်သော اسم တစ်ခုသည် علم ဖြစ်မှသာ غير منصرف ဖြစ်မည်။

ဥပမာ- بَعَلَبَكَّ ـ حَضْرَمَوْتَ ـ نَيُوْيَوْرَكْ ـ رَامَهُرْمُزَ- بُوْرُسَعِيْدْ

بَعَلَبَكَّ နှင့် အလားတူ اسم တို့သည် تركيب مزجي ဖြစ်ပြီး علم လည်းဖြစ်နေသည့်အတွက်ကြောင့် غير منصرف ဖြစ်သည်။

## ( ا ن ) الألف والنون الزائدتان (၈)

ألف ونون زائدتان ဆိုသည်မှာ اسم တစ်ခု၏ နောက်ဆုံးတွင် (ا ن)ألف ونون အပိုပါခြင်းကိုခေါ်ဆိုသည်။ ထို اسم သည် علم (သို့) وصف အဖြစ်လာရှိမည်။

علم အဖြစ်လာရှိသော ဥပမာ ...... عُثْمَانُ - عِمْرَانُ

وصف အဖြစ်လာရှိသော ဥပမာ ...... سَكْرَانُ ، عَطْشَانُ

ألف ونون زائدتانပါသော اسم တစ်ခုသည် وصف ဖြစ်၍ ၎င်း၏ مؤنث သည် فَعْلَانَةٌ ၏ وزن ဖြင့်လာရှိပါက منصرف ဖြစ်သွားမည်။

ဥပမာ - نَدْمَانٌ - نَدْمَانَةٌ

## (၉) وزن الفعل – (ကြိယာ၏ပုံစံ)

وزن الفعل ဆိုသည်မှာ فعلအတွက်သာသတ်မှတ်ထားသော ပုံစံဖြင့် လာသော اسم ကို ခေါ်သည်။

ဥပမာ - يَزِيْدُ ၊ أَحْمَدُ

فعل အတွက်သာသတ်မှတ်ထားသည့် ပုံစံဖြင့်လာရှိသော اسم သည် အောက်ပါစည်းကမ်းချက်များနှင့်ကိုက်ညီမှသာ غير منصرف ဖြစ်မည်။

(၁) စာလုံး၏အစတွင် ( أ-ت-ي-ن ) حروف المضارعة အက္ခရာတစ်ခုခု ရှိရမည်။

(၂) စာလုံး၏ အဆုံး၌ ( ة ) تاء التأنيث မဝင်ရောက်စေရ။

ဥပမာ - يَزِيْدُ ၊ أَحْمَدُ

**အထူးမှတ်သားရန်**

(၁) غير منصرف ကို الْمَمْنُوْعُ مِنَ الصَّرْفِ (သို့) الاسم الذي لاَيَنْصَرِفُ ဟုလည်းခေါ်သည်။

(၂) علمية နှင့် وصف နှစ်ခုအနက်တစ်ခုသည် غير منصرف တိုင်းတွင် سببတစ်ခု အဖြစ် အမြဲပါရှိမည်။

(၃) علمية သည် وصف နှင့်တွဲ၍မလာနိုင်ပါ။

(၄) علمية သည် جمع နှင့်လည်း တွဲ၍မလာနိုင်ပါ။

(၅) وصف သည် علمية ၊ جمع ၊ تركيب ၊ عجمة တို့နှင့် တွဲ၍မလာနိုင်ပါ။

### علمية နှင့် တွဲ၍လာရှိနိုင်သော سبب များ

(၁) علمية နှင့် عدل تقديري တို့ တွဲ၍လာရှိခြင်း

ဥပမာ- مررتُ بِعُمَرَ

(၂) علمية နှင့် تأنيث لفظي ومعنوي တို့ တွဲ၍လာရှိခြင်း

ဥပမာ - مررت بفاطمة ၊ مررت بزينب

(၃) علمية နှင့် عجمة တို့ တွဲ၍လာရှိခြင်း

ဥပမာ - مررت بإبراهيم

(၄) علمية နှင့် تركيب တို့ တွဲ၍လာရှိခြင်း

ဥပမာ - ذَهَبْتُ إِلٰى رَشِيْدْ أَحْمَدْ

(၅) علمية နှင့် الألف والنون الزائدتان တို့ တွဲ၍လာရှိခြင်း

ဥပမာ - مررت بعثمان

(၆) علمية နှင့် وزن الفعل တို့ တွဲ၍လာရှိခြင်း

مررت بأحمدَ - ဥပမာ

## وصف နှင့်တွဲ၍လာရှိနိုင်သော سبب များ

(၁) وصف နှင့် عدل تحقيقي တို့တွဲ၍လာရှိခြင်း

جَائَتِ الطَّالِبَاتُ إلىٰ المَدْرَسةِ مَثْنٰى وَثُلَاثَ وَرُبَاعَ - ဥပမာ

(၂) وصف နှင့် وزن الفعل တို့ တွဲ၍လာရှိခြင်း

لَوْنُ الْبَقَرَةِ أسود - ဥပမာ

(၃) وصف နှင့် الألف والنون الزائدتان တို့ တွဲ၍လာရှိခြင်း

الْمُدَرِّسُ غَضْبَانُ - ဥပမာ

(၄) وصف နှင့် تأنيث တို့ ပူးတွဲပုံ

الْقَلَنْسُوَّةُ بَيْضَاءُ - ဥပမာ

မှတ်သားရန်

(၁) غير منصرف တွင် ال ဝင်ရောက်လျှင်သော်လည်းကောင်း၊

(၂) غير منصرف သည် مضاف ဖြစ်လျှင်သော်လည်းကောင်း مُنْصَرِف ဖြစ်သွားမည်။

ထို့ကြောင့် حالة الجر တွင် كسرة ဖြင့်လာရှိမည်။

جاء الأئمة من المساجدِ ، ذَهَبْنَا إلىٰ مَسَاجِدِ الهِنْدِ. - ဥပမာ

## လေ့ကျင့်ခန်း

### ကျက်မှတ်ရန် စကားဆစ်များ

خائن - အလွဲသုံးစားလုပ်သူ　　سابق - ယှဉ်ပြိုင်ခြင်း　　صامت - တိတ်ဆိတ်စွာနေသူ

أسبق - ရှေ့ကျောသူ　　أُنشئ - တည်ထောင်ခံရခြင်း　　قوَافِلُ - ခရီးသည်အုပ်စုများ

لُقِّبَ - ဘွဲ့/ကင်ပွန်းတပ်ခြင်း　　الفاروق - အမှားနှင့်အမှန်ခွဲခြားပေးသူ

၁။ အောက်ပါဝါကျများတွင် غيـــر الـــمـنـصـرف များကို အကြောင်းခံများနှင့်တကွ သတ်မှတ်ပါ။ ထို့နောက် အဓိပ္ပါယ်ပြန်ဆိုပါ။ غير المنصرف ပျက်သွားသည့်အချက်များတွေ့ရပါကလည်းရှင်းပြပါ။

(١) الكتابُ أفضلُ من صديق خائن.　　(٢) قرأت سعادُ كتاب اللغة العربية .

(٣) جلس عدنان في الصف صامتا.　　(٤) لُقِّبَ عمرُ بالفاروق.

(٥) لم يَكُنْ غَيْرُكَ أَسْبَقَ منِّي.　　(٦) هذه عصافيرُ.

(٧) جاء الأولادُ ثلاث .　　(٨) سلمت على التلميذ الأسبق.

(٩) تسير القوافل بصحراء العرب.　　(١٠) دخل المدرسة بنات أخر.

၂။ အောက်ပါ غيــــر الــــمــــنــــصــــرف ဖြစ်သော စကားလုံးများ၏ အကြောင်းခံများကိုရေးပါ။ ထို့နောက် ယင်းစကားလုံးများကို အသုံးပြုပြီး ဝါကျဖွဲ့ပါ။

(١) شعبان : ရှအ်ဗာန်လမြတ်　　(٢) كنائسُ : ခရစ်ယန်ဘုရားကျောင်း:　　(٣) قرَاطيسُ : စာရွက်

(٤) شكْوىٰ : တိုင်တန်းခြင်း　　(٥) رُباعُ : လေးခုစီ

၃။ အောက်ပါစကားလုံးများဖြင့် ဝါကျဖွဲ့ပါ။ ဝါကျဖွဲ့ရာတွင် ထိုစကားလုံးများ၏ حالة الجر တွင် كسرة ဖြင့် တစ်ကြိမ် فتحة ဖြင့် တစ်ကြိမ် ပြုလုပ်ပါ။

أَفصَحُ ـ مناظِرُ ـ بَيْضَاءُ ـ ظَمْآنُ

၄။ မိမိဘက်မှ غير المنصرف ၏ سبب တစ်ခုစီပါသည့် ဝါကျ (၉) ခုကိုရေးပါ။

၅။ အောက်ပါဝါကျများကို إعراب တပ်ပြီးနောက် ဘာသာပြန်ဆိုပါ။

(١) سافرت إلى مكة .　　(٢) زرت يوسف .　　(٣) من الورد ماهو أحمر وأبيض.

## إعراب أصناف الاسم

| | | ١ | | | ٢ | ٣ | ٤ | ٥ | ٦ | ٧ | ٨ | ٩ |
|---|---|---|---|---|---|---|---|---|---|---|---|---|
| الحالة الإعرابية | العامل | المفرد المنصرف الصحيح | الجاري المجرى الصحيح | الجمع المكسّر المنصرف | جمع المؤنث السالم | الأسماء الستّة | المثنّى | جمع المذكّر السالم | الاسم المقصور | الاسم المنقوص | جمع المذكّر السالم المضاف إلى ياء المتكلم | غير المنصرف |
| المرفوع | جَاءَ نِيْ | عامرٌ | ودَلْوُهُ | وأَثْوَابُهُ | وسَيَّارَاتُهُ | وأَخُوْهُ | والوَالِدَانِ | والأَقْرَبُوْنَ | والفَتٰى | والمُحَامِيْ | وكَاتِبِيَّ | وعُمَرُ |
| علامة الرفع | | بضمّة | بضمّة | بضمّة | بضمّة | بالواو | بالألف | بالواو | بضمّة مقدرة | بضمّة مقدرة | واو مقدرة | الضمّة |
| المنصوب | رَأَيْتُ | عَامِراً | ودَلْوَهُ | وأَثْوَابَهُ | وسَيَّارَاتِهِ | وأَخَاهُ | والوَالِدَيْنِ | والأَقْرَبِيْنَ | والفَتٰى | والمُحَامِيَ | وكَاتِبِيَّ | وعُمَرَ |
| علامة النصب | | بفتحة | بفتحة | بفتحة | بكسرة | بالألف | بالياء | بالياء | بفتحة مقدرة | بفتحة ظاهرة | بالياء الظاهرة | بفتحة |
| المجرور | مَرَرْتُ | بعامرٍ | وَدَلْوِهِ | وأَثْوَابِهِ | وسَيَّارَاتِهِ | وأَخِيْهِ | والوَالِدَيْنِ | والأَقْرَبِيْنَ | والفَتٰى | والمُحَامِيْ | وكَاتِبِيَّ | وعُمَرَ |
| علامة الجرّ | | بكسرة | بكسرة | بكسرة | بكسرة | بالياء | بالياء | بالياء | بكسرة مقدرة | بكسرة مقدرة | بالياء الظاهرة | بفتحة |

## သင်ခန်းစာ (၁၆)

## توابع (နောက်လိုက်သော اسم များအကြောင်း)

اسم တစ်ခု၏اعرابအတိုင်း နောက်လိုက်အဖြစ်လာရှိသော ဒုတိယ اسم ကို تابع ဟုခေါ်သည်။ နောက်လိုက်ခြင်းခံရသည့် ပထမ اسم ကို متبوع ဟုခေါ်သည်။

ဥပမာ - جَاءَ الرَّجُلُ الْعَالِمُ = ပညာရှိအမျိုးသား လာခဲ့သည်။
(الْعَالِمُ ↓ تابع ، الرَّجُلُ ↓ متبوع)

رَأَيْتُ الرَّجُلَ الْعَالِمَ = ပညာရှိအမျိုးသားကို ကျွန်တော်မြင်ခဲ့သည်။

مَرَرْتُ بِالرَّجُلِ الْعَالِمِ = ပညာရှိအမျိုးသားအနားမှ ကျွန်တော်ဖြတ်သွားခဲ့သည်။

ဖော်ပြပါဥပမာများတွင် العالم သည် အခြေအနေတိုင်းတွင် الرجل ၏اعراب ပုံစံအတိုင်း အတိုင်းလာရှိနေသည်။

## توابع ၏အမျိုးအစားများ

توابع ၏ အမျိုးအစား(၅) မျိုးရှိသည်။ ၎င်းတို့မှာ ……

(၁) نَعْتٌ (၂) تَوْكِيْدٌ (၃)عَطْفُ النَسَقِ

(၄) عَطْفُ البَيَانِ (၅) بَدَلٌ

## (၁) نعت (ဝိသေသအကြောင်း)

اسم တစ်ခု၏ ဂုဏ်ရည်ဝိသေသကိုဖော်ပြပေးသော تابع ကို نعت ဟုခေါ်သည်။ ဂုဏ်ရည်ဖော်ပြခြင်းခံရသော اسم ကို مَنْعُوْتٌ ဟုခေါ်ဆိုသည်။

ဥပမာ - نَجَحَ طَالِبٌ مُجْتَهِدٌ (ကြိုးစားသောကျောင်းသားသည် အောင်မြင်ခဲ့သည်။)
(مُجْتَهِدٌ ↓ نعت ، طَالِبٌ ↓ منعوت)

## نعت ၏အမျိုးအစားများ

نعت သည် (၂) မျိုးရှိသည်။ ၎င်းတို့မှာ ……

(၁) نَعْتٌ حَقِيْقِيٌّ (၂) نَعْتٌ سَبَبِيٌّ

## نَعْتٌ حَقِيْقِيٌّ အကြောင်း

၁။ نعت သည် منعوت ၏ ဂုဏ်ရည်ဝိသေသကို ဖော်ပြပါက نَعْتٌ حَقِيْقِيٌّ ဟုခေါ်သည်။

ဥပမာ - نَجَحَ طَالِبٌ مُجْتَهِدٌ (ကြိုးစားသောကျောင်းသားသည် အောင်မြင်ခဲ့သည်။)

نَعْتٌ حَقِيْقِيٌّ တွင် نعت နှင့် منعوت သည် အောက်ပါအချက်များတွင် ကိုက်ညီမှုရှိရမည်။

(၁) إعراب တွင် ကိုက်ညီရမည်။

ဥပမာ - بستانٌ جميلٌ - လှပသောဥယျာဉ်။

(၂) معرفة ဖြစ်ခြင်းနှင့် نكرة ဖြစ်ခြင်းတို့တွင် ကိုက်ညီရမည်။

ဥပမာ - التلميذ المجتهد - ကြိုးစားသော ကျောင်းသားသည်။

ဥပမာ - تِلْمِيْذٌ مُجْتَهِدٌ - ကြိုးစားသော ကျောင်းသားတစ်ဦး

(၃) مؤنث နှင့် مذكر ဖြစ်ခြင်းတွင် ကိုက်ညီရမည်။

ဥပမာ - المسجد الكبير - ကြီးသောဗလီ။

المرأة الصالحة - ကောင်းသောအမျိုးသမီး။

(၄) العدد အရေအတွက် (ကိန်းဂဏန်း) တွင် ကိုက်ညီရမည်။

ဥပမာ - الكتاب الجديد - သစ်သောစာအုပ်တစ်အုပ်။

الكتابان الجديدان - သစ်သောစာအုပ်နှစ်အုပ်။

الكتُب الجديدة/ الجدد - သစ်သောစာအုပ်များ။

## نعت حقيقي ၏အမျိုးအစားများ

نعت حقيقي သည် (၃)မျိုးရှိသည်။

(၁) نعت သည် مفرد အဖြစ်လာရှိမည်။

ဥပမာ - المؤمنُ القويُّ خيرٌ من المؤمن الضعيف

متبوع ← المؤمنُ ; تابع (مفرد) ← القويُّ

(အင်အားရှိသော မိုအ်မင်န်သည် ချည့်နဲ့သောမိုအ်မင်န်ထက် သာပို၍ကောင်းမွန်သည်။)

(၂) نعت သည် جملة အဖြစ်လာရှိမည်။

اسمية၏ ဥပမာ - محمدٌ نَبِيٌّ سُنَنُه خَالِدَةٌ

متبوع ← نَبِيٌّ ; تابع (جملة اسمية) ← سُنَنُه خَالِدَةٌ

(မုဟမ္မဒ်သခင်သည်နဗီဖြစ်တော်မူသည်။ တမန်တော်၏စွန္နသ်တော်များသည် အမြဲတည်ရှိနေမည်။)

فعلية ၏ ဥပမာ - في المدرسةِ آثَارٌ تَدُلُّ على سُنَنِ الرَّسُوْلِ ﷺ

متبوع ← آثَارٌ ; تابع (جملة فعلية) ← تَدُلُّ

(ကျောင်းတွင် တမန်တော်မြတ်စွန္နသ်တော်များကို ဖော်ကြူးနေသော အမွေအနှစ်များရှိသည်။)

(၃) نعت သည် شبه جملة အဖြစ်လာရှိမည်။

ဥပမာ - لِلسُّنَّةِ عِزَّةٌ فَوْقَ كُلِّ عِزَّةٍ

متبوع ← للسنة عزة ، تابع (شبه جملة) ← فوق كل عزة

(စုန္နသ်တော်များတွင် အားလုံးသော ဂုဏ်သိက္ခာများထက်သာပိုသည့် ဂုဏ်သိက္ခာများရှိသည်။)

## نَعْتٌ سَبَبِيٌّ အကြောင်း

၂။ نعت သည် منعوت နှင့် ဆက်နွယ်ပက်သက်နေသော اسم ၏ ဂုဏ်ရည်ဝိသေသကို ဖော်ပြပါက نَعْتٌ سَبَبِيٌّ ဟုခေါ်သည်။

ဥပမာ - هذا طالبٌ نظيفٌ كتابُه

متبوع ← طالبٌ ، تابع ← نظيفٌ ، متبوع နှင့်ဆက်နွယ်ပတ်သက်နေသောအရာ ← كتابُه

(ဤသူသည် ကျောင်းသားဖြစ်သည်။ သူ၏စာအုပ်သည် သန့်ရှင်းသပ်ရပ်လှသည်။)

هذه قلنسوةٌ جميلٌ لَوْنُها

(ဤအရာသည် ဦးထုပ်ဖြစ်သည်။ ဦးထုပ်၏အရောင်သည် လှပသည်။)

نعت سببي တွင်အောက်ပါအချက်များသည် ကိုက်ညီမှုရှိရမည်။

(၁) نعت သည် نكرة၊ معرفة ဖြစ်ခြင်းနှင့် إعراب တို့တွင်မိမိ၏ منعوت နှင့်ကိုက်ညီရမည်။

نكرة တွင်ကိုက်ညီမှု - ဥပမာ

هذا طالبٌ نظيفٌ كتابُه

رأيت طالباً نظيفاً كتابُه

ذهبت إلى طالبٍ نطيفٍ كتابُه

معرفة ဖြစ်ခြင်းတွင်ကိုက်ညီမှု - ဥပမာ

الطالبُ النظيفُ كتابُه

رأيت الطالبَ النظيفَ كتابُه

ذهبت إلى الطالبِ النظيفِ كتابُه

(၂) نعت သည် مذكر နှင့် مؤنث ဖြစ်ခြင်းတွင် မိမိ၏ منعوت နှင့်ဆက်နွယ်ပက်သက်သော اسم ဖြင့်သာကိုက်ညီစွာ လာရှိရမည်။

ဥပမာ - هذا طالبٌ نظيفٌ كتابُه    هذه طالبةٌ نظيفةٌ مِسْطرتها

هذا طالبٌ نظيفةٌ قلنسوتُه    هذه طالبةٌ نظيفٌ كتابُها

## ၈။ အသုံးပြုခြင်း၏ရည်ရွယ်ချက်များ

(၁) تَوْضِيحٌ - ရှင်းပြရန်အတွက် အသုံးပြုသည်။ထိုအချိန်တွင် منعوت သည် معرفة ဖြစ်ရမည်။

ဥပမာ - نَجَحَ الطالبُ المجتهدُ (ကြိုးစားသောကျောင်းသားသည် အောင်မြင်ခဲ့သည်။)

(၂) تَخْصِيصٌ - သီးသန့်ပြုလုပ်ရန်အတွက် အသုံးပြုသည်။ထိုအချိန်အတွင် متبوع သည် نكرة ဖြစ်ရမည်။

ဥပမာ - فازَ طالبٌ مجتهدٌ (ကြိုးစားသောကျောင်းသား အောင်မြင်ခဲ့သည်။)

(၃) مَدْحٌ - ချီးမွမ်းရန်အတွက် အသုံးပြုသည်။

ဥပမာ - يحبُّ الأستاذُ طالباً مجتهدًا

(ကြိုးစားသောကျောင်းသားကို ဆရာသည် ချစ်ခင်နှစ်သက်သည်။)

(၄) ذَمٌّ - ပြစ်တင်ရှုတ်ချရန်အတွက် အသုံးပြုသည်။

ဥပမာ - ضُرِبَ طالبٌ سارقٌ (ခိုးသော ကျောင်းသားသည် အရိုက်ခံရသည်။)

(၅) تَرَحُّمٌ - သနားကြင်နာမှုကို ဖော်ပြရန်အတွက် အသုံးပြုသည်။

ဥပမာ - مَرَرْتُ بالرَّجلِ المسْكِيْنِ (သူဆင်းရဲအနားမှ ကျွန်တော်ဖြတ်သွားခဲ့သည်။)

(၆) تَوْكِيْدٌ - လေးနက်မှုကို ဖော်ပြရန်အတွက်လာရှိပေသည်။

ဥပမာ - ضَرَبْتُ كَلْبًا ضَرْبَةً وَاحدَةً

(ကျွန်တော်သည် ခွေးကို တစ်ကြိမ်တည်း ရိုက်ခဲ့သည်။)

❁❁❁

## (၂) تَوْكيدٌ (လေးနက်မှုကိုဖော်ပြသော اسم များအကြောင်း)

جملة တစ်ခုတွင်ထင်ရောင်ထင်မှားဖြစ်မှုများကို ရှင်းလင်းပေးသော تابع ကို توكيدٌ ဟုခေါ်သည်။

ဥပမာ - المُدِيرُ نَفْسُهُ يُعَلِّمُ الطلابَ

متبوع تابع (توكيد)

(ကျောင်းအုပ်ဆရာကြီး ကိုယ်တိုင် ကျောင်းသားများကို သင်ကြားပို့ချသည်။)

ဥပမာ - حَفِظْتُ القرآنَ كُلَّهُ

(ကျွန်တော်သည် ကုရ်အာန်တစ်အုပ်လုံးကို ကျက်မှတ်ခဲ့သည်။)

## تَوْكِيْدٌ ၏အမျိုးအစားများ

تو كيدٌ သည် (၂) မျိုးရှိသည်။ ၎င်းတို့မှာ ……

(၁) تَوْكِيْدٌ لَفْظِيٌّ (၂) تَوْكِيْدٌ مَعْنَوِيٌّ

## (၁) تَوْكِيدٌ لَفْظِيٌّ အကြောင်း

متبوع အဖြစ်လာသောစကားလုံးကို ပြန်လည်အသုံးပြု၍ လေးနက်မှုကိုဖော်ပြသော تابع ကို تو كيد لفظي ဟုခေါ်သည်။

ဥပမာ - القرآنُ القرآنُ كتابُ اللّٰه

متبوع تابع

(ကုရ်အာန် ကုရ်အာန်ကျမ်းမြတ်သည်သာ အလ္လာဟ်အရှင်မြတ်၏ကျမ်းဖြစ်သည်။)

تو كيدٌ لفظيٌّ တွင် متبوع သည် ……

(၁) اسم ظاهر အဖြစ်လာနိုင်သည်။ ဥပမာ - القرآنُ القرآن كتاب اللّٰه

(၂) ضَميرٌ အဖြစ်လာနိုင်သည်။ ဥပမာ - جَئتُ أنا

(၃) حَرْفٌ အဖြစ်လာနိုင်သည်။ ဥပမာ - نَعمْ نَعمْ

(၄) فِعْلٌ အဖြစ်လာနိုင်သည်။ ဥပမာ - حَفِظْتُ حفِظْتُ القرآن

(၅) جُمْلَةٌ အဖြစ်လာနိုင်သည်။ ဥပမာ - نَجَحَ المُجْتَهِدُ نَجَحَ المُجْتهد

## (၂) تَوْكِيْدٌ مَعْنَوِيٌّ အကြောင်း

متبــــــوع နှင့် အဓိပ္ပါယ်အရတူညီ၍ စာလုံးအရကွဲပြားသော စကားလုံးများဖြင့် လေးနက်မှုအား ဖော်ပြသော تابع ကို تو كِيدٌ مَعْنَوِيٌّ ဟုခေါ်သည်။

ဥပမာ - المُديرُ نَفْسُهُ يُعَلِّمُ الطلابَ

تو كيدٌ معنوي ဖြစ်သော စကားလုံးများမှာ ……

(၁) نَفْسٌ ဥပမာ - المُديرُ نَفْسُهُ يُعَلِّمُ الطلابَ

(၂) عَيْنٌ ဥပမာ - الأستاذُ عَيْنُه يُدَرِّسُ الطلابَ

(ဆရာကိုယ်တိုင် ကျောင်းသားများကို သင်ကြားနေသည်။)

(၃) كُلٌّ ဥပမာ - الطلابُ كُلُّهُمْ ناجحُوْنَ

(ကျောင်းသားအားလုံးတို့သည် အောင်မြင်ကြသည်။)

(၄) جَمِيْعٌ ဥပမာ - القُرْآنُ جَمْيعُه من اللّٰه

( ကုရ်အာန်တစ်အုပ်လုံးသည် အလ္လာဟ်အရှင်မြတ်ဘက်တော်မှဖြစ်သည်။)

(၅) كِلَا ဥပမာ - الطالبانِ كِلَاهما مُجتَهِدانِ

(ကျောင်းသားနှစ်ဦးလုံးသည် ကြိုးစားသောသူများ ဖြစ်သည်။)

(၆) كِلْتَا ဥပမာ - صُنْ يَدَيْكَ كِلْتَيْهِمَا عن الأذى

( အသင့်လက်နှစ်ဖက်လုံးကို ဒုက္ခပေးခြင်းမှ ထိန်းသိမ်းပါ)

မှတ်ချက်။ ။ (၁) အထက်ပါစကားလုံးများဖြင့် توكيدٌ ပြုလုပ်ရာတွင် متبوع နှင့်ကိုက်ညီသော ضمير တစ်ခုခု ပါရှိရမည်။

(၂) كلا နှင့် كلتا တို့သည် مثنى အတွက်သာ အသုံးပြုရသည်။



## (၃) عَطَفُ النَّسَقِ အကြောင်း

تابع နှင့် متبوع တို့အား သတ်မှတ်ထားသော စကားလုံးတစ်ခုခုတို့ဖြင့် ဆက်သွယ်ပေးခြင်းကို عطف النسق ဟုခေါ်သည်။ تابع ကို مَعْطُوْفٌ ဟုခေါ်သည်။ مَتْبُوْعٌ ကို مَعْطُوْفٌ عليه ဟုခေါ်၍ ဆက်သွယ်ပေးသော စကားလုံးကို حرف العَطَفِ ဟုခေါ်သည်။

ဥပမာ - جاء عليٌّ وَ محمدٌ (အလီနှင့်မိုဟမ္မဒ်လာခဲ့သည်။)

معطوف عليه ← عليٌّ ، حرف العطف ← وَ ، معطوف ← محمدٌ

حروف العطف ခေါ် ဆက်သွယ်ပေးသော စကားလုံးများမှာ ......

(၁) واوٌ - واوٌ သည် معطوف عليه နှင့် معطوف ကိုပေါင်းစပ်ပေးသည်။

ဥပမာ - صَلّى حامدٌ و هاشمٌ

(ဟာမိဒ် 'နှင့်' ဟေ့ရှားမ်သည် နမားဇ်ဝတ်ပြုခဲ့သည်။)

(၂) فَاءٌ - فاءٌ သည် معطوف عليه နှင့် معطوف တို့၏ ဆက်တိုက်ဖြစ်ပျက်မှုကို ဖော်ပြပေးသည်။

ဥပမာ - قَام محمد فـأحمد

(မုဟမ္မဒ်ရပ် 'ပြီးနောက်' အဟ်မဒ်ရပ်ခဲ့သည်။)

(၃) ثُمَّ - ثُمَّ သည် معطوف عليه နှင့် معطوف တို့သည် တစ်ဖြည်းဖြည်းခြင်း ဖြစ်ပေါ်ကြောင်းကိုဖော်ပြပေးသည်။

ဥပမာ - وصل خالدٌ ثم هشامٌ

(ခါလိဒ်ရောက်ခဲ့ပြီး 'ခဏတွင်' ဟေ့ရှားမ်ရောက်ခဲ့သည်။)

(၄) أو - أو သည် عليه معطوف နှင့်معطوف نှစ်ခုအနက် တစ်ခုဖြစ်ကြောင်းကိုဖော်ပြပေးသည်။

ဥပမာ - أَكَلَ التُفّاحَ خالدٌ أو هشامٌ

(ပန်းသီးကို ခါလိဒ် ' သို့မဟုတ် ' ဟေ့ရှားမ်က စားခဲ့သည်။)

(၅) أمْ - أم သည်عليه معطوف နှင့် معطوف နှစ်ခုအနက် တစ်ခုအားသတ်မှတ်ပေးရန်အတွက် လာရှိသည်။

ဥပမာ - أكتابٌ عندك أم قلمٌ ؟

(အသင့်ထံတွင် စာအုပ်လား ' သို့မဟုတ် ' ကလောင်လား၊)

(၆) لا - لا သည် عليه معطوف ကိုအတည်ပြု၍ معطوف မပါဝင်ကြောင်းကို ဖော်ပြပေးသည်။

ဥပမာ - حضر الأستاذُ لا الطلابُ

( ဆရာရောက်ခဲ့သော်လည်း ကျောင်းသားများမရောက်ခဲ့ပါ။)

(၇) لكنْ - لكنْ သည် ဖြည့်စွက်ပေးရန်အတွက်လာသည်။

ဥပမာ - ماقام حَامِدٌ لكنْ خالدٌ.

( ဟာမိဒ်မထခဲ့ပါ။ ' သို့သော် ' ခါလိဒ်ရပ်ခဲ့သည်။)

(၈) بَلْ - بَلْ သည်လည်း ဖြည့်စွက်ပေးရန်အတွက်လာသည်။

ဥပမာ - قام حَامِدٌ بَلْ خالدٌ.

( ဟာမိဒ်ထခဲ့သည်။ ခါလိဒ် ' လည်း ' ထခဲ့သည်။)

(၉) حتى - حتى သည် ပေါင်းစပ်ပေးရန်အတွက်လာသည်။ حتى ဖြင့် ပေါင်းစပ်ပေးရာတွင် معطوف သည် عليه معطوف ၏ အစိတ်အပိုင်းဖြစ်ရမည်။

ဥပမာ - أكلتُ السمكةَ حتى رَأْسَهَا

(ကျွန်တော်သည် ငါးကို ခေါင်း 'နှင့်တကွ' စားခဲ့သည်။)

(၁၀) إمَّا - إمَّا သည် حرف العطف ဖြစ်ရန်စည်းကမ်းချက်မှာ حرف العطف ဖြစ်သည့် إما အလျှင် အခြား إما တစ်ခုရှိရမည်။

ဥပမာ - حامدٌ إما طَبِيبٌ وإما مُهَنْدِسٌ

(ဟာမိဒ်သည် ဆရာဝန် 'သော်လည်းကောင်း'၊ အင်ဂျင်နီယာ'သော်လည်းကောင်း' ဖြစ်မည်။)

## (၄) عطف البيان အကြောင်း

تابع သည် جامد اسم ဖြစ်ပြီး မိမိ متبوع ကိုရှင်းပြပေးနေပါက ထို تابع ကို عطف البيان ဟုခေါ်ဆိုပေသည်။

ဥပမာ - نجحَ محمدٌ أخوك

متبوع　تابع ( اسم جامد ـ عطف البيان)

(အသင်၏အစ်ကိုဖြစ်သော မုဟမ္မဒ် အောင်မြင်ခဲ့သည်။)

## عطف البيان လာရှိသော နေရာများ

၁။ صفة ၏နောက်တွင် موصوف အဖြစ် လာခြင်း

ဥပမာ - . انتصر الفاتح طارق

၂။ အကျယ်ဖွင့်ဆိုရန်လာခြင်း

ဥပမာ - . القمران : الشمس و القمر

၃။ ကွန္နယသ် (တင်စားခေါ်ဝေါ်သည့်အမည်)နောက်တွင် နာမည် အဖြစ်လာခြင်း

ဥပမာ - . عدل الخَلِيْفَةُ أبو حفص عمرُ

၄။ ဘွဲ့ထူး၏နောက်တွင် နာမည် အဖြစ်လာခြင်း

ဥပမာ - . الناصرُ صلاح الدين

၅။ اسم الإشارة နောက်တွင် اسم ظاهر အဖြစ်လာခြင်း

ဥပမာ - . أعجبتني هذه الخطبة

မှတ်သားရန်

(၁) عطف البيان သည် မိမိ၏ متبوع ထက်သာပို ထင်ရှားမှု ရှိရမည်။

ဥပမာ - أَبُو حَفْصٍ عمرُ

(၂) عطف البيان သည် မိမိ၏ متبوع ထက် အရေးပါသောအရာ မဖြစ်စေရ။

ဥပမာ - ذهبَ محمدٌ أَخُوْكَ

(၃) عطف البيان သည် معرفة ကို ရှင်းပြရန်အတွက်သော်လည်းကောင်း၊ نكرة ကို သီးသန့်ပြုရန်အတွက်သော်လည်းကောင်း လာရှိသည်။

معرفة ကို ရှင်းပေးသော ဥပမာ - . جاء صلاح الدين الفاتح

نكرةကို သီးသန့်ပြုပေးသော ဥပမာ - . اشتريت خاتما ذهبا

# (၅) بدل အကြောင်း

متبوعٌ ထက် သာပို၍အဓိကကျသော تابع ကို بدل ဟုခေါ်သည်။ متبوع အား مُبْدَلٌ منه ဟုခေါ်ဆိုပေသည်။

ဥပမာ - عدل الخليفةُ عمرُ

متبوع (مبدل منه) — تابع (بدل)

## بدل ၏အမျိုးအစားများ

بدل သည် (၄) မျိုးရှိသည်။ ၎င်းတို့မှာ ......

(၁) بَدلُ الكُلِّ منْ الكُلِّ

(၂) بَدلُ البَعْضِ منْ الكُلِّ

(၃) بَدَلُ ا لاشْتِمَالِ

(၄) بَدَلُ الغَلَطِ

(၁) بدل နှင့် مبدل منه တို့သည် ထပ်တူထပ်မျှဖြစ်နေပါက بَدلُ الكُلِّ منْ الكُلِّ ဟုခေါ်ဆိုသည်။

ဥပမာ - عدل الخليفة عمرُ

(ခလီဖာဖြစ်သော အုမရ်သခင်သည် တရားမျှတခဲ့သည်။)

(၂) بدل သည် مبدل منه ၏ အစိတ်ပိုင်းတစ်ခုဖြစ်နေပါက بدل البعض من الكل ဟုခေါ်ဆိုသည်။

ဥပမာ - حَفِظْتُ الكتابَ نِصْفَهُ

(ကျွန်တော်သည် စာအုပ်ကို တစ်ဝက်သာ ကျက်ခဲ့သည်။)

(၃) بدل သည် مبدل منه နှင့် ပတ်သက်ဆက်နွယ်နေပါက بدلُ الاشتمال ဟုခေါ်ဆိုသည်။

ဥပမာ - أَفَادَنِيْ الْمُعَلِّمُ عِلْمُهُ.

(ဆရာသည်ကျွန်တော့်ကိုအကျိုးပြုခဲ့သည်။၎င်း၏အသိပညာက)

(၄) بدل သည် مبدل منه ၏ မှားယွင်းမှုအားဖော်ပြနေပါက بدل الغلط ဟုခေါ်ဆိုသည်။

ဥပမာ - جَاء الأستاذُ ، التِلْميْذُ

(ဆရာလာခဲ့သည်။ (မဟုတ်၊ မဟုတ် မှားလို့) ကျောင်းသားလာခဲ့သည်။)

မှတ်သားဖွယ်

(၁) بدل နှင့် مبدل منه သည် معرفة နှင့် نكرة ဖြစ်ခြင်းတို့တွင် တူညီရန် အရေးမကြီးပါ။

(၂) مُضْمَرٌ သည် بدل နှင့် مبدل منه အဖြစ် မလာရှိနိုင်ပါ။

(၃) بدل သည် ဝါကျတွင် အဓိကကျ၍ عطف البيان သည်အဓိက မကျပါ။

## လေ့ကျင့်ခန်း

၁။ تابع ဟူသည် အဘယ်နည်း၊ تابع ၏ အမျိုးအစားမည်မျှရှိသနည်း၊ ၎င်းတို့ကို ဥပမာများနှင့်တကွရေးပါ။

၂။ အောက်ပါဝါကျများကို إعراب တပ်၍ توكيد لفظي နှင့် توكيدمعنوي တို့ကို ခွဲခြားပြပါ။

(၁) الملك كله لله.　　(၂) حادثني الوزير نفسه.

(၃) رأيت المدرسة المدرسة .　　(၄) حضر حضر الغائب .

(၅) لا ، لا أخون العهد .　　(၆) أطع والديك كليهما .

(၇) دهشنا نحن أنفسنا.　　(၈) حامد قرأ هو نفسه الكتاب .

၃။ အောက်ပါဝါကျများကို إعراب တပ်၍ نعت سببي နှင့် نعت حقيقي တို့ကို ခွဲခြားပြပြီးနောက် ဘာသာ ပြန်ဆိုပါ။

(၁) حضرت السيدة العاقلة .　　(၂) ركبت الحصان الجميل سرجه .

(၃) أقمت في المنزل الفسيح فناؤه.　　(၄) أوقدت مصباحا نوره قوي.

(၅) الماء الحار مُضِرٌّ شربه .　　(၆) بحر متلاطم موجه .

၄။ အောက်ပါဝါကျများကို إعراب တပ်၍ حرف العطف ၏ အဓိပ္ပါယ်ပေါ်လွင်အောင် ဘာသာပြန်ပါ။

(၁) أكلت تفاحا وبرتقالا.　　(၂) أكلت تفاحا فبرتقالا.

(၃) أكلت تفاحا ثم برتقالا.　　(၄) هل أكلت تفاحا أو برتقالا؟

(၅) أتفاحا أكلت أم برتقالا ؟　　(၆) أكلت تفاحا لا برتقالا.

(၇) أكلت تفاحا بل برتقالا.　　(၈) ماأكلت تفاحا لكن برتقالا.

၅။ အောက်ပါကွက်လပ်များတွင် သင့်တော်သော စကားလုံးများကို ထည့်ပါ။

(၁) أقميصا اشتريت أم ............؟　　(၂) دخل التلاميذ فـ ...... .

(၃) بنى أبي بيتا و ............ .　　(၄) أكلت حتى ...... .

(၅) ذهبنا إلى الحديقة لا ...... .　　(၆) ذهبت أمي لا ...... .

၆။ عطف البيان နှင့် بدل တို့၏ ကွာခြားချက်ကို ဥပမာနှင့်တကွ ရေးသားပါ။

၇။ အောက်ပါဝါကျများတွင် عطف البيان နှင့် بدل တို့ကို ခွဲခြားပြပါ။

(၁) دخل أبوهريرة عبد الرحمن .　　(၂) أعجبنا البحر منظره.

(၃) جاء أبوك خالد .　　(၄) سرني الخادم أمانته .

(၅) مشيت الطريق نصفه .　　(၆) اشتريت خاتما فضة .

၈။ အောက်ပါဝါကျများတွင် بدل နှင့် مبدل منه ကိုရှင်းပြပြီးနောက် بدل၏ အမျိုးအစားများကို ရှင်းပြပါ။

(၁) حضر أخوك أحمد . (၂) قضيت الدَّينَ نصفه .

(၃) سرني الشارع نظافته . (၄) أغلقت البيت بابه .

(၅) أكلت الرغيف كله . (၆) أعجبني محمد أخوك .

၉။ အောက်ပါကွက်လပ်များတွင် သင့်လျော်သော بدل များကို ထည့်ပါ။

(၁) ضايقني الصيف …… . (၂) قرأت الكتاب …… .

(၃) نفعنا الواعظ …… . (၄) أكلت السمكة …… .

(၅) بعت الشجرة …… . (၆) تلألأت السماء …… .

၁၀။ အောက်ပါကွက်လပ်များတွင် သင့်လျော်သော مبدل منه များကို ထည့်ပါ။

(၁) خرج …… أكثرهم . (၂) ضعف …… نوره .

(၃) نفعني …… نصحه .

## သင်ခန်းစာ (၁၇)

**ဆရာလမ်းညွှန်**

အရဗီစာပေတွင် حُـرُوْف ၏ ကဏ္ဍသည်လည်း အလွန်အရေးပါလှသည်။ حـرف တစ်ခု၏ စွမ်းဆောင်ချက်ကြောင့်အဓိပ္ပါယ်များကွာခြားသွားတတ်သည်။ ထို ကွာခြားချက်များကို ဂရုမစိုက်ပါက သဘောပေါက်လွဲမှားသွားမည်ဖြစ်သည်။ ထို့ကြောင့်ဆရာသည် ဤအခန်းကို ကြပ်ကြပ်မတ်မတ် သင်ကြားပေးရန် အထူးလိုအပ်ပါသည်။

## حَرْفٌ – ဝိဘတ်အကြောင်း

كـلـمة သည် (၁) اسـم (၂) فـعـل (၃) حـرف ဟူ၍ (၃) မျိုးရှိကြောင်းအစတွင်ဖော်ပြခဲ့ပြီးဖြစ်ပါသည်။ ယခု حرف (ဝိဘတ်) ၏အမျိုးအစားများနှင့် အသုံးပြုသည့်နေရာများကို ဆက်လက်ဖော်ပြပါမည်။

## حرف ၏ အမျိုးအစားများ

حرف သည် အခြေခံအားဖြင့်(၂)မျိုးရှိသည်။

(၁) حُرُوفٌ عاملةٌ - (عمل လုပ်သော حرف များ)

ဥပမာ - الحروف الجارة

(၂) حروفٌ غَيْرُ عاملةٍ - (عمل မလုပ်သော حرف များ)

ဥပမာ - حروف الاستفهام

အသုံးများသော حرف များမှာ အမျိုး (၂၀) ရှိသည်။ ၎င်းတို့မှာ ……

### (၁) الحروفُ الجارَّةُ (၁၇) လုံး

حروف جارة အကြောင်းကို စာမျက်နှာ (၈၂) တွင် အကျယ်တဝင့်ဖော်ပြခဲ့ပြီးဖြစ်သည်။

### (၂) الحروفُ المُشَبَّهَةُ بالفِعْلِ (၆) လုံး

حروف مشبهة بالفعل အကြောင်းကို စာမျက်နှာ (၄၇) တွင် အကျယ်တဝင့်ဖော်ပြခဲ့ပြီးဖြစ်သည်။

### (၃) حروفُ النِّدَاءِ (၅) လုံး

حروفُ النِّدَاء အကြောင်းကို စာမျက်နှာ (၁၇) တွင် ဖော်ပြခဲ့ပြီးဖြစ်သည်။

### (၄) الْحُرُوْفُ المُشَبَّهَةُ بـ"ليس" (၂) လုံး

ليس နှင့် တူဆင်သော "ما" နှင့် "لا" တို့အကြောင်းကို စာမျက်နှာ (၅၄)တွင်ဖော်ပြခဲ့ပြီးဖြစ်သည်။

### (၅) حروفُ الْعَطْفِ – (၁၀) လုံး

حروف العطف အကြောင်းကို စာမျက်နှာ (၁၁၄) တွင်ဖော်ပြခဲ့ပြီးဖြစ်သည်။

## (၆) حُرُوْفُ النفيِ (၇) လုံး

حروف النفي အငြင်းစကားလုံး (၇) လုံးဆိုသည်မှာ - لَمْ ، لَمَّا ، لَنْ ، مَا ، إِنْ ، لا ، لَاتَ တို့ဖြစ်သည်။

ဥပမာ - لَاتَ حِينَ مَنَاصٍ - (ထိုအချိန်မှာ လွတ်မြောက်ရန်အချိန်မဟုတ်တော့ပါ။)

## (၇) حروفُ الإيجابِ (၈) လုံး

حروف الإيجاب (အဖြေပေးသော စကားလုံး (၈) လုံးဆိုသည်မှာ -

نَعَمْ ، بَلى ، إِيْ ، أَجَلْ ، جَيْرِ ، إنَّ ، لَا ، كَلَّا

**نَعَمْ** ကို ရိုးရိုးမေးခွန်း၏အဖြေအတွက်သုံးသည်။

ဥပမာ - أَأَنْتَ طَالِبٌ ؟ نَعَمْ . (အသင်ကျောင်းသားလား၊ ဟုတ်ကဲ့)

**بَلٰى** အား အငြင်းပါသောမေးခွန်းကို လေးနက်စွာ ဖြေဆိုရာတွင် သုံးသည်။

ဥပမာ - أَلَسْتُ بِرَبِّكُمْ ؟ قَالُوْا:بلى'.

(ငါသည် အသင်တို့၏ဖန်ဆင်းရှင်မဟုတ်သလော၊လူသားတို့က "အဘယ်ကြောင့်မဟုတ်ရမည်နည်း") ဟု ဖြေကြားခြင်း

**إِيْ** ကို ကစမ်၏အလျှင်လေးနက်စွာဖြေဆိုရာတွင် သုံးသည်။

ဥပမာ - إِيْ وَرَبِّيْ - (ဟုတ်တယ်၊ငါ့အားမွေးမြူဖန်ဆင်းတော်မူသောအရှင်မြတ်၏ကစမ်)

**جَيْرِ** ကိုလည်း ကစမ်အလျှင်ဖြေဆိုရာတွင် အသုံးပြုသည်။

ဥပမာ - جَيْرِ وَاللّٰهِ لَأَفْعَلَنَّ. (ဟုတ်ကဲ့၊အလ္လာဟ့်ကစမ်-ကျွန်ုပ်မုချပြုလုပ်မည်။)

မှတ်သားရန်။ ။ جَيْرِ ကို مبني على الكسر အဖြစ်အသုံးပြုသည်။

**إنَّ** ကို نعم ၏အဓိပ္ပါယ်တွင်အသုံးပြုသည်။

ဥပမာ - هَلْ جَاءَ حَامِدٌ ؟ إنَّ. (ဟာမိဒ်လာခဲ့သလား၊ဟုတ်ကဲ့-မုချလာခဲ့သည်။)

**أَجَلْ** ကို ထောက်ခံဖြေဆိုရာတွင် သုံးသည်။

ဥပမာ - أَأَنْتَ طَالِبٌ ؟ أَجَلْ .

(အသင်ကျောင်းသားဟုတ်ရဲ့လား၊ဟုတ်ကဲ့-ကျွန်တော်ကျောင်းသားပါ။)

**كَلَّا** နှင့် **لا** ကို ငြင်းဆို အဖြေပေးရာတွင် အသုံးပြုသည်။

ဥပမာ - أَأَنتَ مُدَرِّسٌ ؟ لا . (အသင်ဆရာလား။ မဟုတ်ရပါ။)

**كلاّ** - သည် ငြင်းဆိုခြင်းနှင့်အတူ မေးမြန်းသူအား ငေါက်ငန်းဖြေဆိုရာတွင် သုံးသည်။

ဥပမာ - هَلْ سَجَدْتَّ الصَّنَمَ ؟ كَلَّا. (အသင်ရုပ်တုကိုဦးချမှာလား၊ လုံးဝလုံးဝ မလုပ်ပါ။)

## (၈) حُرُوْفُ التَّفْسِيْرِ

حُرُوْفُ التَّفْسِيْر (အကျယ်ရှင်းပေးသောစကားလုံးမှာ (၂) လုံးရှိသည်။)

(၁) أَيْ (၂) أنْ

ဤစကားလုံး (၂) လုံးတို့သည် မိမိတို့အလျှင်ရှိ စကားလုံး (သို့) ဝါကျကို ရှင်းပြပေးသည်။

أَيْ - သည် مُفْرَدْ နှင့် جملة နှစ်ခုလုံးကို ရှင်းပြပေးသည်။

رأَيْتُ طَالِبًا ، أَيْ:حَامِدًا. - ဥပမာ مفرد ၏

(ကျွန်တော်ကျောင်းသားတစ်ဦးကိုတွေ့ခဲ့သည်။ ဆိုလိုသည်မှာ ကျောင်းသား ဟာမိဒ်ကို တွေ့ခဲ့သည်။)

رَمَانِيْ الْأُسْتَاذُ بالطَّرْفِ ، أَيْ:أَنْتَ مُذْنِبٌ. - ဥပမာ جملة ၏

(ဆရာသည်ကျွန်ုပ်အား မျက်စပစ်ခဲ့သည်။ သဘောမှာ အသင်သည် အပြစ်ကျူးလွန်သူဖြစ်သည်။)

أَنْ - သည် جملة ကို ရှင်းပြပေးရန်သာသုံးသည်။

كَتَبْتُ إِلَيهِ ، أن:اُحْضُرْ. - ဥပမာ

(ကျွန်တော်သည် ထိုသူအား စာရေးခဲ့သည်။ အကြောင်းမှာ "အသင်လာရောက်ပါ။" ဟူ၍ဖြစ်သည်။)

## (၉) حُروفُ التَّحْضِيضِ و التَّنْدِيْمِ

حُروفُ التَّحْضِيضِ و التنديم (သတိပေးလှုံ့ဆော်သော စကားလုံး (သို့) فاعل ၏ နောင်တရမှုကို ဖော်ပြပေးသော စကားလုံး) မှာ (၅) လုံး ရှိသည်။ ၎င်းတို့မှာ -

(၁) هَلَّا (၂) أَلَّا (၃) لَوْمَا (၄) لَوْلَا (၅) أَلَا

ဤအက္ခရာ (၅) လုံးသည် -

الفعل المضارع တွင်ဝင်ရောက်ပါက သတိပေးလှုံ့ဆော်မှုအတွက် အသုံးပြုသည်။

ဥပမာ -

هَلَّا تَتُوْبُ إِلَى اللّٰهِ. (အသင် အဘယ့်ကြောင့် သောဝ်ဗဟ်မလုပ်သနည်း၊)

لَوْلَا تَسْتَغْفِرُوْنَ اللّٰهَ . (အသင်တို့သည် အဘယ်ကြောင့်အရှင်မြတ်ထံမှ လွတ်ငြိမ်းချမ်းသာခွင့် မတောင်းခံကြသနည်း။)

أَلَا تُحِبُّوْنَ أَنْ يَغْفِرَ اللّٰهُ لَكُمْ. ( အရှင်မြတ်အသင်တို့ကိုခွင့်လွတ်ချမ်းသာပေးမည်ကို မနှစ်သက်ကြပါသလော။)

لَوْمَا تَأْتِيْنَا بِالْمَلَائِكَةِ. (အဘယ့်ကြောင့်အသင်သည် ကျွန်ုပ်တို့ထံ ကောင်းကင်တမန်များကို မခေါ် ဆောင်လာသနည်း။)

أَلَّا تَجْتَهِدْ. (အသင်အဘယ့်ကြောင့် မကြိုးစားသနည်း။)

الفعل الماضي ပေါ် ဝင်ရောက်ပါက فاعل ၏ နောင်တရမှုကို ဖော်ပြပေးရန် အတွက်သုံးသည်။

ဥပမာ - لَوْلاَ أَخَّرْتَنَا إِلٰى أَجَلٍ

(အရှင်မြတ်သည် ကျွန်ုပ်တို့အား အချိန်တစ်ခုအထိ ရွှေ့ဆိုင်းပေးခဲ့လျှင် ကောင်းလေစွ)

## حُرُوْفُ الْعَرْضِ (၁၀)

حُرُوْفُ الْعَرْضِ - (နူးညံ့သိမ်မွေ့စွာ တောင်းဆိုသော စာလုံး) မှာ (၃) လုံးရှိသည်။ ၎င်းတို့မှာ -

(၁) أَلاَ (၂) أَمَا (၃) لَوْ

ဥပမာ - لَوْتَسْكُنُ عِنْدَنَا فَنَسْتَفِيْدَ بِكَ.

(အသင်ကျွန်ုပ်တို့ထံ နေလိုက်ပါလား၊ ကျွန်ုပ်တို့ အကျိုးခံစားရတာပေါ့။)

أَلاَ تَأْتِيْنِي فَنُعْطِيَكَ كِتَابًا.

(အသင်ကျွန်ုပ်ထံလာလိုက်ပါလား၊ ကျွန်တော်စာအုပ်တစ်အုပ်ပေးမှာပေါ့။)

أَمَا تَكْتُبُ كِتَابًا فَنَقْرَأَهُ.

(အသင်စာအုပ်တစ်အုပ်ရေးပါလား။ ကျွန်တော်တို့ဖတ်လို့ရတာပေါ့။)

## حُرُوْفُ التَّنْبِيْهِ (၁၁)

حُرُوْفُ التَّنْبِيْهِ - (သတိပေးစာလုံး) မှာ (၄) လုံးရှိသည်။ ၎င်းတို့မှာ ……

(၁) أَلاَ (၂) أَمَا (၃) هَا (၄) يَا

ဥပမာ - أَلاَ إِنَّ الرَّبَّ وَاحِدٌ . (သတိ!ဖန်ဆင်းရှင်သည် တစ်ပါးတည်းသာရှိသည်။)

أَمَا إِنَّ السَّعْيَ نَافِعٌ. (သတိ!ကြိုးစားခြင်းသည် အကျိုးရှိစေသည်။)

هَا قَدْ رَجَعْتُ. (ကျွန်တော်ပြန်ရောက်လာပြီ ဗျို့)

يَا رُبَّ كَاسِيَةٍ فِيْ الدُّنْيَا عَارِيَةٌ فِيْ الْآخِرَةِ. (နားစွင့်ကြလေကုန်!လောက၌ အချို့သော ဝတ်ဆင်ထားသူမများသည် လောကုတ္တရာတွင် ဝတ်လစ်စလစ်ဖြစ်ရလိမ့်မည်။)

## الْحُرُوْفُ الْمَصْدَرِيَّةُ (၁၂)

الْحُرُوْفُ الْمَصْدَرِيَّةُ - (مَصْدَرْ လုပ်ပေးသော စာလုံး)မှာ (၅) လုံးရှိသည်။ ၎င်းတို့မှာ ……

(၁) أَنْ (၂) أَنَّ (၃) كَيْ (၄) مَا (၅) لَوْ

ဥပမာ - سَرَّنِيْ أَنْ تَنْجَحَ. = ( سَرَّنِيْ نَجَاحُكَ. )

(အသင်၏အောင်မြင်ခြင်းသည် ကျွန်ုပ်အား ပျော်ရွှင်စေခဲ့သည်။)

أُحِبُّ أَنَّكَ تَصُوْمُ . = (أُحِبُّ صِيَامَكَ. )

(အသင်၏ရိုဇာထားခြင်းအား ကျွန်ုပ်နှစ်သက်သည်။)

( اِرْحَمْ رَحْمَتِكَ .) = اِرْحَمْ لِكَيْ تُرْحَمَ.

(ကြင်နာမှုရရှိရန်အတွက် အသင်လည်း ကြင်နာပါ။)

(اَللّٰهُ خَلَقَكُمْ وأَعْمَالَكُمْ.) = اَللّٰهُ خَلَقَكُمْ وَمَاتَعْمَلُوْنَ.

(အလ္လာဟ်အရှင်မြတ်သည် အသင်တို့နှင့် အသင်တို့လုပ်ရပ်များကို ဖန်ဆင်းတော်မူခဲ့သည်။)

(أُحِبُّ اِجْتِهَادَكَ .) = أُحِبُّ لَوْ تَجْتَهِدُ . (အသင်၏ကြိုးစားခြင်းအား ကျွန်ုပ်နှစ်သက်သည်။)

## حُرُوْفُ الْاِسْتِقْبَالِ (၁၃)

حُرُوْفُ الْاِسْتِقْبَالِ - (အနာဂတ်ကာလပြ စာလုံး) မှာ (၂) လုံးရှိသည်။ ၎င်းတို့မှာ -

(၁) (س) السينُ (၂) سَوْفَ

## حُرُوْفُ التَّوْكِيْدِ (၁၄)

حُرُوْفُ التَّوْكِيْدِ (လေးနက်မှုပြ စာလုံး) မှာ (၅) လုံးရှိသည်။

(၁) إِنَّ (၂) أَنَّ (၃ + ၄) (نْ،نّ) نُوْنَا التَّوْكِيدِ (၅) لام التَّوْكِيْدِ

## حَرْفُ التَّمَنِّيْ (၁၅)

حَرْفُ التَّمَنِّيْ - (မဖြစ်နိုင်သော အရာကို မျှော်လင့်သည့် စာလုံး) မှာ لَيْتَ ဖြစ်သည်။

ဥပမာ - لَيْتَ الشَّبَابَ يَعُوْدُ. (နုပျိုခြင်း ပြန်လည်လာလျှင်ကောင်းလေစွ၊)

## حُرُوْفُ الْاِسْتِفْهَامِ (၁၆)

حُرُوْفُ الْاِسْتِفْهَامِ (အမေးစာလုံး) မှာ (၂) လုံးရှိသည်။

(၁) (أَ) همزة الاستفهام (၂) هَلْ

ဥပမာ - أَ أَنْتَ طَالِبٌ؟ هَلْ أَنْتَ طَالِبٌ ؟

## حَرْفُ التَّرَجِّي والإِشْفَاقِ (၁၇)

حَـرْفُ التَّـرَجِّي والإِشْفَاقِ - (ဖြစ်နိုင်သောအရာကို မျှော်လင့်ခြင်းနှင့် စိုးရိမ်ခြင်းကို ဖော်ပြသော) စာလုံးမှာ لَعَلَّ ဖြစ်သည်။

| ဥပမာ - للترجي | للإشفاق |
|---|---|
| لَعَلَّكَ نَاجِحٌ | لَعَلَّكَ رَاسِبٌ |
| အသင်အောင်မြင်မည်ဟု (မျှော်လင့်သည်။) | အသင်ကျရှုံးမှာကို (စိုးရိမ်မိသည်။) |

## (၁၈) حُروفُ التَّشْبِيْهِ

حُروفُ التَّشْبِيْهِ - (ခိုင်းနှိုင်းမှုပြ စာလုံး) မှာ (၂) လုံးရှိသည်။ ၎င်းတို့မှာ ……

(၁) (كـ) الْكَافُ (၂) كَأَنَّ

ဥပမာ - العِلْمُ كَالنُّوْرِ. (အသိပညာသည် အလင်းရောင် 'ပမာ' ဖြစ်သည်။)

كَأَنَّكَ بَدْرٌ . (အသင်သည် လပြည့်ဝန်း 'ကဲ့သို့' ဖြစ်သည်။)

## (၁၉) هَاءُ السَّكْتِ

هـاء السكت ဆိုသည်မှာ စာလုံးတစ်လုံးအား ရပ်နားသောအခါ ထည့်ဖတ်ရသော هَـاءٌ سَاكِنَةٌ ကို ခေါ်ဆိုသည်။

ဥပမာ - كَيْفَ ؟ = كَيْفَـهْ ؟ (ဘယ်လိုလဲ)

مَا أَغْنٰى عَنِّيْ مَالِيَ . = مَاأَغْنٰى عَنِّيْ مَالِيَـهْ.

(ကျွန်ုပ်၏ ဉစ္စာပစ္စည်းသည် ကျွန်ုပ်အား အကျိုးမပြုခဲ့ပါ။)

## (၂၀) اللَّامَاتُ

اللَّامَاتُ ( لام - ၏ အမျိုးအစားများ)

(၁) لَامُ الْجَرِّ - الْحَمدُ لِـلّٰه ( ချီးမွမ်းမှုအပေါင်းတို့သည် အရှင်မြတ်အတွက်သာဖြစ်သည်။)

(၂) لَامُ الْأَمْرِ - لِـيَذْهَبْ حَامِدٌ ( ဟာမိဒ်သွားပါ။)

(၃) لَامُ الابْتِدَاءِ - لَـحَلَالٌ خَيْرٌ مِنْ حَرَامٍ (မုချ- ဟလာလ်သည် ဟရာမ်ထက်ပိုကောင်းသည်။)

(၄) لَامُ الْبُعْدِ - أسْماءُ الإشارة للبعيد တွင် ပါသော ل များ။ ذلِكَ ، ذلِـكُمَا

(၅) لَامُ الْجَوابِ - لَوْ، لولاَ ، لَوْمَا နှင့် مُسَقَّمْ တို့၏ အဖြေတွင် ပါသော ل ။

لَوْلاَ الدِّيْنُ لَـهَلَكَ النَّاسُ (သာသနာမရှိပါက လူတို့ မုချ ပျက်စီးကြလိမ့်မည်။)

# المراجع و المصادر (ကျမ်းကိုးစာရင်း)



| الرقم | أسماء الكتب | أسماء المصنفين | أسماء المطابع |
|---|---|---|---|
| ١ | القرآن الكريم | | |
| ٢ | شرح قطر الندى و بل الصدى | الإمام ابن هشام الأنصاري | مطبع جامعة الكوثر |
| ٣ | الإعراب الميسر | محمد علي أبو العباس | دارالطلائع ـ القاهرة |
| ٤ | التطبيق النحوي | د ـ عبده الراجحي | دارالنهضة العربية-بيروت |
| ٥ | الزهور الندية في الدروس النحوية | العلامة نافع الجوهري | مكتبة الآداب ـ القاهرة |
| ٦ | النحو الأساسي | د ـ أحمد مختار وزملاؤه | ذات السلاسل ـ الكويت |
| ٧ | النحو العصري | سليمان فياض | مركزالأهرام |
| ٨ | النحو الواضح | علي الجارم ومصطفى أمين | مكتبة البشرى ـ باكستان |
| ٩ | جامع الدروس العربية | الشيخ مصطفى غلاييني | المكتبة العصرية ـ بيروت |
| ١٠ | مرجع الطلاب في الإعراب | إبراهيم شمس الدين | دارالكتب العلمية ـ بيروت |
| ١١ | مرجع الطلاب في قواعد النحو | " | " |
| ١٢ | النحو المستطاب | د ـ عبد الرحمن الأهدل | تنفيذ المجموعة الإعلامية |
| ١٣ | تيسير قواعد النحو للمبتدئين | مصطفى محمود الأزهري | دارالعلوم والحكم ـ مصر |
| ١٤ | كتاب النحو | نخبة من علماء الكوثر | مطبع جامعة الكوثر |
| ١٥ | معجم لغة النحو العربي | السفير أنطوان الدحداح | مكتبة لبنان |
| ١٦ | هداية النحو | شيخ سراج الدين | |
| ١٧ | شرح على مائة عامل | الإمام عبد القاهر الجرجاني | |



بحمد الله